# ဘင်္ဂါလီပြဿနာ

နှင့်

# ရခိုင်ပြည်နယ် အနာဂတ်အရေး

ခိုင်ကျော် (ဥပဒေ)

ကမ္ဘာ့ရွာ မပြိုမပျောက်သရွေ့ ရခိုင်မြေပေါ်ရှိ . . . .

ရခိုင်အိမ်ကြီး၌

ရခိုင်မိသားစု ထာဝရ ရှိနေမည်သာ ဖြ




ဘင်္ဂါလီပြဿနာ နှင့် ရခိုင်ပြည်နယ် အနာဂတ်အရေး ခိုင်ကျော် (ဥပဒေ)




# ဘင်္ဂါလီပြဿနာ

နှင့်

# ရခိုင်ပြည်နယ် အနာဂတ်အရေး

ခိုင်ကျော် (ဥပဒေ)

Ven. Eindobhasa

1000

03-02-2014

### ဒို့တာဝန်အရေးသုံးပါး

| | |
|---|---|
| ပြည်ထောင်စု မပြိုကွဲရေး | ဒို့အရေး |
| တိုင်းရင်းသားစည်းလုံးညီညွတ်မှု မပြိုကွဲရေး | ဒို့အရေး |
| အချုပ်အခြာအာဏာ တည်တံ့ခိုင်မြဲရေး | ဒို့အရေး |

### ပြည်သူ့သဘောထား

- ပြည်ပအားကိုး ပုဆိန်ရိုး အဆိုးမြင်ဝါဒီများအား ဆန့်ကျင်ကြ။
- နိုင်ငံတော်တည်ငြိမ်အေးချမ်းရေးနှင့် နိုင်ငံတော်တိုးတက်ရေးကို နှောင့်ယှက်ဖျက်ဆီး သူများအား ဆန့်ကျင်ကြ။
- နိုင်ငံတော်၏ပြည်တွင်းရေးကို ဝင်ရောက်စွက်ဖက် နှောင့်ယှက်သော ပြည်ပနိုင်ငံများ အားဆန့်ကျင်ကြ။
- ပြည်တွင်းပြည်ပအဖျက်သမားများအား ဘုံရန်သူအဖြစ် သတ်မှတ်ချေမှုန်းကြ။

### နိုင်ငံရေးဦးတည်ချက်(၄)ရပ်

- နိုင်ငံတော်တည်ငြိမ်ရေး၊ ရပ်ရွာအေးချမ်းသာယာရေးနှင့် တရားဥပဒေစိုးမိုးရေး။
- အမျိုးသားစည်းလုံးညီညွတ်မှု ခိုင်မာရေး။
- စည်းကမ်းပြည့်ဝသော ဒီမိုကရေစီစနစ် ရှင်သန်ခိုင်မာအောင် တည်ဆောက်ရေး။
- ဖွဲ့စည်းပုံအခြေခံဥပဒေနှင့်အညီ ခေတ်မီဖွံ့ဖြိုးတိုးတက်သော နိုင်ငံတော်သစ် တည်ဆောက်ရေး။

### စီးပွားရေးဦးတည်ချက်(၄)ရပ်

- စိုက်ပျိုးရေးကို ပိုမိုဖွံ့ဖြိုးတိုးတက်အောင် ဆောင်ရွက်ပြီး ခေတ်မီစက်မှုနိုင်ငံ ထူထောင်ရေးနှင့် အခြားစီးပွားရေးကဏ္ဍများကိုလည်း ဘက်စုံဖွံ့ဖြိုးတိုးတက် အောင်တည်ဆောက်ရေး။
- ဈေးကွက်စီးပွားရေးစနစ် ပီပြင်စွာ ဖြစ်ပေါ်လာရေး။
- ပြည်တွင်းပြည်ပမှ အတတ်ပညာနှင့် အရင်းအနှီးများ ဖိတ်ခေါ်၍ စီးပွားရေးဖွံ့ဖြိုးတိုးတက်အောင် တည်ဆောက်ရေး။
- နိုင်ငံတော်၏စီးပွားရေးတစ်ရပ်လုံးကို ဖန်တီးနိုင်မှုစွမ်းအားသည် နိုင်ငံတော်နှင့် တိုင်းရင်းသားပြည်သူတို့၏ လက်ဝယ်တွင်ရှိရေး။

### လူမှုရေးဦးတည်ချက်(၄)ရပ်

- တစ်မျိုးသားလုံး၏ စိတ်ဓာတ်နှင့် အကျင့်စာရိတ္တမြင့်မားရေး။
- အမျိုးဂုဏ်၊ ဇာတိဂုဏ်မြင့်မားရေးနှင့် ယဉ်ကျေးမှုအမွေအနှစ်များ၊ အမျိုးသားရေးလက္ခဏာများ မပျောက်ပျက်အောင် ထိန်းသိမ်းစောင့်ရှောက်ရေး။
- စစ်မှန်သောမျိုးချစ်စိတ်ဓာတ်ဖြစ်သည့် ပြည်ထောင်စုစိတ်ဓာတ် ရှင်သန်ထက်မြက်ရေး။
- တစ်မျိုးသားလုံး ကျန်းမာကြံ့ခိုင်ရေးနှင့် ပညာရည်မြင့်မားရေး။

# ဘင်္ဂလီပြဿနာ

နှင့်

# ရခိုင်ပြည်နယ် အနာဂတ်အရေး

## ခိုင်ကျော် (ဥပဒေ)

ကမ္ဘာ့ရွာ မပြိုမပျောက်သရွေ့ ရခိုင်မြေပေါ်ရှိ . . . .
ရခိုင်အိမ်ကြီး၌
ရခိုင်မိသားစု ထာဝရ ရှိနေမည်သာ ဖြစ်ပါသည် . . . .



ပုံနှိပ်ခြင်း - ပထမအကြိမ်၊ ၂၀၁၃၊ ဇန်နဝါရီလ၊
အုပ်ရေ - ၁၀၀၀
စာအုပ်အပြင်အဆင် - ကျော်စိုးလူ
မျက်နှာဖုံးပြုလုပ်ချက် - ကိုလင်းဇာနည်(အလင်းအိမ်)
အတွင်းအပြင်အဆင် - အနာဂတ်ကမ္ဘာ
ထုတ်ဝေသူ
ဦးမောင်မောင်မြင့်အေး(လာဘ်မိုးစွေစာပေ)၊
အမှတ် (၂၀၅)၊ ပိတောက်(၅)လမ်း၊ အင်းစိန်၊ ရန်ကုန်မြို့။
မျက်နှာဖုံးနှင့် အတွင်းပုံနှိပ်
ကြည်ပြာသွယ် (ဝင်းတိုးအောင်ပုံနှိပ်တိုက်)
အမှတ် (၁၈၁) လမ်း ၅၀၊ ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်မြို့။
အတွင်းဖလင် - ပုံရိပ်ရှင်
တန်ဖိုး - ၁၃၀၀
ဖြန့်ချိရေး
မျိုးဆက်သစ်စာပေ အမှတ်(၃၄)၊ (၄လွှာ-ယာ) ကျီတော်လမ်း၊
မင်္ဂလာတောင်ညွန့်မြို့နယ်၊ ရန်ကုန်မြို့။ ဖုန်း - ၀၉၄၂၀၀၈၃၆၈၈

နိုင်ကျော်(ဥပဒေ) ၀၀၈.၈၄
ဘင်္ဂလီပြဿနာနှင့်ရခိုင်ပြည်နယ်အနာဂတ်အရေး/ နိုင်ကျော်(ဥပဒေ)-ရန်ကုန်။
Middle Line စာပေ၊ ဇန်နဝါရီလ၊ ၂၀၁၃။
၁၃၁ - စာ၊ ၂၀ × ၁၃.၃ စင်တီ။
(၁) ဘင်္ဂလီပြဿနာနှင့်ရခိုင်ပြည်နယ်အနာဂတ်အရေး

# မာတိကာ

| စဉ် | အကြောင်းအရာ | စာမျက်နှာ |
|---|---|---|

## အပိုင်း(က)

| စဉ် | အကြောင်းအရာ | စာမျက်နှာ |
|---|---|---|

**အပိုင်း (ခ)**



**အပိုင်း (ဂ)**



**ပူးတွဲစာရွက်စာတမ်းများ**

သို့

ဒေါက်တာမျိုးမြင့်

ဥက္ကဋ္ဌ

၂၀၁၂-ခုနှစ်၊ ဘင်္ဂလီ-ရခိုင် ပဋိပက္ခနှင့်စပ်လျဉ်း၍

စုံစမ်းစစ်ဆေးရေးကော်မရှင်

ရက်စွဲ၊ ၂၇.၁၀.၂၀၁၂

အကြောင်းအရာ။ ။ ဘင်္ဂလီ-ရခိုင်ပဋိပက္ခနှင့်စပ်လျဉ်း၍ စုံစမ်းစစ်ဆေးရေးကော်မရှင်သို့ အကြံပြုချက်တင်ပြခြင်း

ဤစာတမ်းရေးသူသည် ရခိုင်အမျိုးသားတစ်ဦးဖြစ်ပြီး လက်ရှိနိုင်ငံ့ဝန်ထမ်းတစ်ဦးလည်း ဖြစ်ပါသည်။ ရခိုင်တိုင်းရင်းသားဖြစ်၍ ဤစာတမ်း၌ ရခိုင်ဘက်မှရပ်တည်ချက်က ပိုကဲကောင်း ပိုကဲနေနိုင်ပါသည်။ ဤသည်မှာ သဘာဝတရားပင်ဖြစ်ပါသည်။ ဤစာတမ်း၌ အပိုင်း(၃)ပိုင်း ခွဲခြားဖော်ပြထားပါသည်။ အပိုင်း(က)တွင် သမိုင်းကြောင်းကို အကျဉ်းချုပ် ရေးသားထားပါသည်။ အပိုင်း(ခ)တွင် ရိုဟင်ဂျာအမည်ခံ အကြမ်းဖက်သမားများ၏ လှုပ်ရှားမှုများကို လေ့လာတင်ပြထားပြီး အပိုင်း(ဂ)၌ သုံးသပ်အကြံပြုချက်များကို အဓိကတင်ပြထားပါသည်။

ဤစာရေးသူသည် မိမိ၏ဇာတိမြေ အနာဂတ်ရေးအတွက် ရင်မအေးဖွယ်ခံစားချက်များကြောင့် ဤစာတမ်းကို ရေးရခြင်း ဖြစ်ပါသည်။ ဤစာတမ်းတွင် နိုင်ငံတော်က ဖွဲ့စည်းတာဝန်ပေးအပ်ထားသော စုံစမ်းစစ်ဆေးရေးကော်မရှင်အတွက် သဲတစ်ပွင့်မျှ အထောက်အကူပြုလျှင်ပင် ကျေနပ်ပါသည်။

နိုင်ကျော်(ဥပဒေ)

စစ်တွေမြို့၊ ရခိုင်ပြည်နယ်

# နိဒါန်း

ကမ္ဘာကြီးသည် တစ်နေ့တခြား တိုးတက်ပြောင်းလဲနေပါသည်။ ပြောင်းလဲတိုးတက်နေသော ကမ္ဘာကြီးတွင် 'ကြီးနိုင် ငယ်ညှဉ်း' ဝါဒတို့သည် ဆိတ်သုဉ်းမသွားသေးပါ။ အင်အားကြီးသူက အင်အားနည်းသူကို အနိုင်ယူလိုသည့် စိတ်ဓာတ်များ ရှင်သန်နေကြဆဲဖြစ်သည်။ အင်အားပြနယ်ချဲ့ဝါဒကြောင့် ကမ္ဘာစစ်ကြီးနှစ်ကြိမ် ဖြစ်ခဲ့ပါပြီ။ ယနေ့ထိ နယ်ချဲ့ကျူးကျော်စစ်ပွဲများ၊ နယ်လုစစ်ပွဲများ၊ အာဏာလုစစ်ပွဲများ၊ ဘာသာရေးစစ်ပွဲများ၊ လူမျိုးရေးစစ်ပွဲများ၊ အကြမ်းဖက်စစ်ပွဲပေါင်းများစွာ ဖြစ်ပွားနေကြဆဲဖြစ်ပါသည်။ စစ်ကြောင့် အားနည်းသည့်တိုင်းပြည်ငယ်များ၊ လူမျိုးငယ်များ ပျက်စီးဆုံးရှုံးခဲ့ကြရပါသည်။ ပိုင်နက်နယ်မြေများ၊ ဘာသာစကားများ၊ ဘာသာအယူဝါဒများ၊ ယဉ်ကျေးမှုဓလေ့ထုံးစံများ ပျောက်ဆုံးခဲ့ကြရသည်။ ကမ္ဘာပေါ်တွင် ဘာသာစကား လေးထောင်ကျော်ရှိသည်ဟု ဆိုပါသည်။ လူမျိုးငယ်



များ၏ ဘာသာစကားများမှာ တစ်နေ့တခြား လျင်မြန်စွာ ပျောက်ပျက်နေကြရသည်ဟုလည်း သိရပါသည်။ ကမ္ဘာမှာ လူမျိုးမည်မျှရှိကြပါသလဲ။ မည်၍မည်မျှ ပျောက်သွားကြပြီလဲ။ မြန်မာနိုင်ငံမှာ လူမျိုးပေါင်း ၁၃၅ မျိုးရှိကြောင်း တိကျစွာ ထုတ်ပြန်ထားသည်။ ထိုအထဲတွင် ရခိုင်ပါဝင်ပါသည်။ ကမ္ဘာကြီးသည် ရွာကြီးတစ်ရွာဖြစ်လာပြီဟု ဆိုကြသည်။ ကမ္ဘာ့ရွာ၌ နိုင်ငံပေါင်းမည်မျှရှိကြပါသလဲ။ ကမ္ဘာ့ရွာထဲက မြန်မာနိုင်ငံထဲမှာ ရခိုင်ရှိနေသည်။ ကမ္ဘာ့ရွာထဲမှာ ရခိုင်ရှိနေပါသည်။ ကမ္ဘာ့ရွာကြီး၌ ရခိုင်ဘာသာစကား ပြောသော မိသားစုတစ်စုသည် ခိုင်ခံ့သော ကိုယ်ပိုင်ခြံဝင်း၊ ကိုယ်ပိုင်အိမ်ကြီးရခိုင်ဖြင့်နှစ် ထောင်ချီနေထိုင်လာခဲ့ပါသည်။ ယနေ့ထိ ရခိုင်မြေ၊ ရခိုင်အိမ်၊ ရခိုင်လူမျိုး ရှိနေပါသည်။ ကမ္ဘာ့ရွာ မပြိုမပျောက်သရွေ့ ရခိုင်မြေပေါ်ရှိ ရခိုင်အိမ်ကြီး၌ ရခိုင်မိသားစုရှိနေမည်သာ ဖြစ်ပါသည်။

(က) ကျွန်းတွင်ဇမ္ဗူလူတွင် ရခိုင်

ရခိုင်သည် လွန်ခဲ့သည့် နှစ်ပေါင်းထောင်ချီသောကာလကပင် ကိုယ့်ထီးကိုယ့်နန်းဖြင့် နေထိုင်လာသည့် လူမျိုးတစ်မျိုး ဖြစ်သည်။ ဓညဝတီ၊ ဝေသာလီ၊ လေးမြို့၊ မြောက်ဦးဟူသော ခေတ်ကြီး လေးခေတ်ကို ဖြတ်သန်းလာခဲ့သည်။ ရှေးဟောင်းဓညဝတီ၊ ဝေသာလီမြို့တော်များကို တူးဖော်တွေ့ရှိမှု မှတ်တမ်းများအရ သမိုင်းက အခိုင်အမာသက်သေခံလျက်ပင်ရှိနေပါသည်။ ရခိုင်သည် ဗုဒ္ဓဘုရားရှင်လက်ထက်ကပင် ထေရဝါဒဗုဒ္ဓဘာသာကို စဉ်ဆက်မပြတ် သက်ဝင်ယုံကြည်ကိုးကွယ်လာခဲ့ကြသည့် လူမျိုး ဖြစ်ပါသည်။ ရခိုင်ပြည်အနှံ့ မြေပေါ်၊

မြေအောက်မှ ရှာဖွေတွေ့ရှိရသော ကျောက်စာ၊ ပေစာ၊ ကြေးပြားစာ၊ ပုရပိုက်စာ၊ ခေါင်းလောင်းစာ၊ ဒင်္ဂါးများ၊ ကျောက်စတူပါများ၊ မရေမတွက်နိုင်သော ဘုရား၊ ပုထိုး၊ စေတီ၊ ကျောင်း၊ ဇရပ်များ၊ ပိဋကတ်စာပေကျမ်းဂန်များက ရခိုင်ပြည်နှင့် ရခိုင်လူမျိုးတို့ မည်ကဲ့သို့ ဆင်းသက်လာကြောင်းကို မီးမောင်းထိုးပြနေပါသည်။

ရခိုင်ပြည်၏ နောက်ဆုံးမြို့တော် မြောက်ဦးသည် အေဒီ ၁၄၃၀ မှ ၁၇၈၄ ထိ နှစ်ပေါင်း ၃၅၄ နှစ် သက်တမ်းရှည်ကြာခဲ့ပါသည်။ ထိုမျှ သက်တမ်းရှည်ကြာတည်တံ့ခဲ့သော မြို့တော်မျိုး ကမ္ဘာမှာ မည်မျှရှိနိုင်ပါမည်နည်း။ မြောက်ဦးမြို့တော်ဟောင်းသည် ယနေ့ထိ ရခိုင်တို့၏ သမိုင်းအစဉ်အလာကို ရင်ဖွင့်ပြလျက်ရှိပါသည်။

ရခိုင်သည် "ဇမ္ဗူဒီပါကျွန်းပြင်၌ မှန်ကင်းသဖွယ်ဖြစ်သော၊ ရန်သူတကာတို့၏ မအောင်မြင်နိုင်ရာသော၊ ရက္ခပူရမည်သော ရက္ခိုင်ရွှေပြည်တော်ကြီး၌ ဗုဒ္ဓဂုံရဖြစ်သော မဟာသမ္မတမင်း၏ အမျိုးအနွယ်များ အစဉ်အဆက်" (ငမည်ရာဇဝင်ကျမ်း၊ ပေမူ- ကာ/ဝမ်း) အုပ်ချုပ်လာသော တိုင်းပြည်ဖြစ်သည်။ ရခိုင်ဓညဝတီသည် ဘုန်းတန်ခိုးကြီးသော မင်းတို့၏ နေရာမဟာရာ့ဇဌာနီဖြစ်သည်။ (မှန်နန်းရာဇဝင်ကြီး၊ စာ- ၂၄၈)။ ရခိုင်သည် မြန်မာအကြီးစားဖြစ်သည်။ ရခိုင်သည် သာကီဝင်အကြီးစားဟု ဆိုရချိမ့်မည်။ (လောကအမြင်၊ မောင်ထင် (စာ- ၂၀၄))၊ ရခိုင်တွင် ခြောက်ရာစုမတိုင်မီကပင် စာရေး၊ စာဖတ်တတ်လျက် ယဉ်ကျေးပြီး မဟာယနဗုဒ္ဓဝါဒီများ နေခဲ့သည်။ -- ရခိုင်၌ လေးရာစုကစ၍ ထင်ရှားသော မင်းဆက်နှင့် ယဉ်ကျေးပြီး တိုင်းနိုင်ငံရှိနေပြီ။ --ယေဓမ္မာဟေတုပ္ပဘဝါ ဂါထာ



ပါဠိကျောက်စာများလည်း တွေ့ရသဖြင့် ဟိနယာနလည်း ရှိသည်ဟု ယူဆနိုင်ပါသည်။ (ခေတ်ဟောင်းမြန်မာရာဇဝင်၊ ဒေါက်တာသန်းထွန်း၊ စာ- ၈၅) ယေဓမ္မာဂါထာသည် ဗုဒ္ဓမြတ်စွာဘုရား၏ တရားတော်အဆီအနှစ်ဖြစ်သည့် သစ္စာလေးပါးတရားတော်ပင် ဖြစ်သည်။ ဤဂါထာကို ရေးထိုးခဲ့သော ယင်းကာလ(လေးရာစုမှ ရှစ်ရာစုထိ) ရခိုင်ပြည်သားများမှာ ဗုဒ္ဓတရားတော်ကို အခြေပြုသည့် ဗုဒ္ဓဘာသာကို ကိုးကွယ်ကြသူများ၊ ဗုဒ္ဓဘာသာဝင်များ ဖြစ်ကြသည်။ 'ဝေသာလီ'၊ (ဦးစံသာအောင်၊ ရခိုင့်တန်ဆောင် (၁၆)၊ စာ-၄၆)။ ရခိုင်ဘုရင်များသည် မြောက်ဦးခေတ် အေဒီ-၁၆၆၆ (၁၇ ရာစု)ထိ ဘင်္ဂါ (၁၂) မြို့ကို ပိုင်ခဲ့ပါသည်။ စစ်တကောင်းဒေသသည် ရခိုင်ဗုဒ္ဓဘာသာဝင်များ၏ အုပ်ချုပ်မှုအောက်၌ ၁၇ ရာစုနှောင်းပိုင်းထိရှိခဲ့သည်။

ရခိုင်ပြည်ကို ရခိုင်မြန်မာရာဇဝင်ကျမ်းများ၌ ရက္ခပူရ၊ အယုဇ္ဈပူရ၊ ဝိဟိကတိုင်း၊ ဓညဝတီစသည်ဖြင့် အမျိုးမျိုးမှည့်ခေါ်ကြပါသည်။ ကျောက်စာအထောက်အထားအရ ဝေသာလီခေတ် အာနန္ဒစန္ဒြ ကျောက်စာ (ယခုရှစ်သောင်းဘုရားလှေကား မြောက်ဘက်၌ရှိသည်) တွင် ရခိုင်ပြည်ကို 'အာရက္ခဒေ့ရှ်'ဟု ရေးထားပါသည်။ လေးမြို့ခေတ်၊ မိကျောင်းရပ်ကျောက်စာ (ခ) နိရမွန်ကျောက်စာ၌ 'ရခိုင်မင်း၊ ရခိုင်နိုင်ငံ'ဟူသော ဝေါဟာရ ပါရှိပါသည်။ နိုင်ငံခြားသားများရေးသော စာပေမှတ်တမ်းတချို့၌ ရခိုင်ကို Roshang (ရိုရှင်စ်), Rohang (ရိုဟန်), Aracan, Arracan, Aracao, Orrakan, Arrakan, Arakan စသည်ဖြင့် အမျိုးမျိုးရေးခဲ့ကြပါသည်။ အင်္ဂလိပ်လက်ထက် တစ်လျှောက်လုံး Arakan အမည်သုံးခဲ့သည်။ လွတ်လပ်ရေးရပြီးနောက်

ဖဆပလ၊ ပထစ၊ တော်လှန်ရေးကောင်စီခေတ်တို့တွင်လည်း သုံးခဲ့သည်။ ၁၉၇၈ မြန်မာ့ဆိုရှယ်လစ်လမ်းစဉ်ပါတီခေတ်တွင် ပါတီဗဟိုဌာနချုပ်၏ ညွှန်ကြားချက်ဖြင့် Arakan အမည်ကို Rakhine ဟု အစားထိုးသုံးစွဲလာခဲ့ခြင်း ဖြစ်ပါသည်။ Arakan နှင့် Arakanese အမည်မှာ မှေးမှိန်သွားခဲ့ရပါသည်။

ရခိုင်ပြည်၊ ရခိုင်လူမျိုးကိုဖော်၍ ကဗျာလင်္ကာများစွာလည်း ရေးဖွဲ့ခဲ့ကြပါသည်။ "တေဇာကြီးထု၊ မာရယုကား၊ စစ်ပြုစစ်တိုက်၊ ငရက္ခိုက်ဟု၊ ဝန်းလိုက်နေငြား၊ ဘီလူးများကို၊ ထွားထွားညက်ညက်၊ အကုန်ဖျက်မှ။ အောင်ချက်ဌာန၊ ထိုကစ၍၊ တွင်ထအမည်၊ ရက္ခိုင်ပြည်ဟု၊ ပတ်လည်နှံ့သိ၊ ကျော်စောဘိ၏" (ရာဇဝင်လင်္ကာ)။

"ကတိုးအနံ့ပိုင်၊ သင်းပျံ့မွှေးကြိုင်၊ ရှစ်ရပ်လှိုင်သည်၊ မဏ္ဍိုင်ချက်မြှုပ်သိုထက်၊ နဂိုပြည်ဝေသာလီ၊ ဧည့်နှစ်ခန်း၊ နှစ်ပြည်မှန်းသည်၊ ထီးနန်းအစီအရီတည့်၊ မျိုးသာဂီနွယ်မပျက်၊ နှစ်ပေါင်းရှည်ကြာ၊ မဟာနွယ်ရိုးတက်၏" (စာဆိုသုဝဏ္ဏဒေဝီ၊ ဝေသာလီခေတ်)

"ဇမ္ဗူမဏ္ဍိုင်၊ ရွှေရခိုင်ဝယ်၊ ရှစ်ဆိုင်ရပ်မင်း၊ ခွန်သွင်းဖျင်ပြော၊ သဘော်စင်းပြန်၊ ဆိတ်မည်ံတည်း။" (နရနူမင်း၊ ၁၅ ရာစု၊ မြောက်ဦးခေတ်)

"ရှေ့ဆီပြုပွာ၊ အာကာမှီခိုင်း၊ တောင်ပြိုင်းပြိုင်းထက်၊ ဆိုင်းဆိုင်းမဏ္ဍိုင်၊ ရခိုင်ညွှန့်ဖူး၊ မွန်ကြယ်မြူးသို့" (စာဆို ဖဒူမင်းညို၊ ၁၅ ရာစု၊ ဘစောဖြူမင်း၊ မြောက်ဦးခေတ်)

"သပြေပူရ၊ ရက္ခမဏ္ဍိုင်၊ ဂုဏ်ပျံ့လှိုင်သည်၊ ရခိုင်ဘုံချာ" (ရခိုင်သီလဝံသ၊ မြောက်ဦးခေတ်)



"ရွှေပြည်မဏ္ဍိုင်၊ ရခိုင်ခေါ်မှန်း၊ သုံးဆောင်နန်းထက်" (ဥက္ကာပျံ၊ မြောက်ဦးခေတ်၊ ၁၆ ရာစု)

"မချောစရာ၊ ချောစရာလျှင်၊ ကေသာဆံလွှ၊ ထုံးနောက်စနှင့်၊ ချုပ်ညရီတွင်၊ ဖြုတ်ချည်းမြင်သည်၊ သျှင်သာရခိုင့်တန်ဆောင်လော့" (ရှင်တေဇောသာရ၊ မြောက်ဦးခေတ်)

"အမျိုးသီလ၊ နှစ်ဌာနကို၊ ပြည့်ဝမဏ္ဍိုင်၊ စောင့်စွမ်းနိုင်သည်၊ ရက္ခိုင်နာမ၊ ဘွဲ့မည်လှဖြင့်" (သျှင်နာဂိန္ဒမော်ကွန်း)

"ကျွန်းတွင်ဇမ္ဗူ၊ လူတွင်ရခိုင်၊ ကြိုင်ဘိသတင်း၊ ကင်းဘိအဖြစ်၊ ချစ်သည့်အမျိုး၊ ကြိုးသည်လုံ့လ၊ မြတ်စာဂနှင့်" (ဗုဒ္ဓဝင်လင်္ကာ) …စသည်ဖြင့် ရခိုင်ကိုဖွဲ့ဆိုသော ခေတ်အဆက်ဆက်က ရတု၊ ကဗျာ၊ လင်္ကာ၊ မော်ကွန်းများမှာ အခိုင်အမာမှတ်တိုင်ပြုလျက်ရှိကြပါသည်။

ရခိုင်သမိုင်းကို မည်သို့သော မသမာသူ တိုင်းတစ်ပါးသားများကမျှ ဖျောက်ဖျက်ဖုံးကွယ်၊ လွဲပြောင်း၊ ဖြည့်စွက်၊ ပုံမှားရိုက်၍ မရနိုင်ပါ။ ရခိုင်သည် အတိတ်မရှိသော အရိပ်မဲ့မိစ္ဆာလူမျိုးမဟုတ်ကြောင်း ကမ္ဘာက သိသင့်ပါသည်။

(ခ) မြောက်ဦးခေတ်တွင် ဘင်္ဂလီမွတ်ဆလင်များ ဝင်ရောက်ခြင်း

မြောက်ဦးခေတ်သည် နောက်ဆုံးရခိုင် ပဒေသရာဇ်ခေတ်ဖြစ်ပြီး အေဒီ ၁၄၃၀ မှ ၁၇၈၄ ထိ နှစ်ပေါင်း ၃၅၄ နှစ် သက်တမ်းရှိခဲ့သည်။ ရခိုင်မင်းများသည် ဘင်္ဂါ ၁၂နယ်ကို ပိုင်ဆိုင်ခဲ့ပြီး စစ်တကောင်းနယ်ကို ၁၆၆၆ ထိ သိမ်းပိုက်ထားနိုင်ခဲ့သည်။ ရခိုင်မင်းများ

လက်ထက်တွင် ဘင်္ဂါနယ်မှ ၁၅ ရာစုခန့်က သုံ့ပန်းများအဖြစ် ဖမ်းလာသည့် မွတ်ဆလင်များနှင့် ၁၇ ရာစုတွင် ပေါ်တူဂီနှင့် ရခိုင်တို့ ကျွန်အရောင်းအဝယ်လုပ်ကိုင်သဖြင့် ကျွန်ဈေးကွက်မှ ဖမ်းဆီးရောင်းချခြင်းခံရသည့် မွတ်ဆလင်များကို လယ်လုပ်ငန်းများ၊ လက်မှုလုပ်ငန်းများ၊ အမှုထမ်းများအဖြစ် အသုံးပြုခဲ့ရာမှ မွတ်ဆလင်တချို့ ရှိနေခဲ့သည်။

မဂိုမင်းရှာရှူးဂျာ (၁၇ ရာစု)သည် ဖခင်ရှာဂျာဟန်ထံမှ နန်းလုမှု၌ ရှုံးနိမ့်သဖြင့် ရခိုင်ဘုရင် စန္ဒသုဓမ္မမင်း အေဒီ (၁၆၅၂-၁၆၈၄)ထံ ခိုလှုံလာခဲ့သည်။ နောက်လိုက် ၃၀၀ ဦးခန့်ပါဝင်သည်။ ၎င်းတို့ကို ရခိုင်မင်းကိုယ်ရံတော်တပ်၌ လေးသည်တော်အမှုထမ်းအဖြစ် ခန့်အပ်ခဲ့သည်။ အာဖဂန်နွယ်ဝင်များဖြစ်ကြပြီး ကမန်(လေးသည်)ဟုခေါ်သည်။ ၎င်းလေးသည်တော်ကမန်များသည် မြောက်ဦး၌နေနေသည့် မဟာမေဒင်တချို့နှင့် ပူးပေါင်းပြီး ၁၆၉၂ ခုနှစ်တွင် ရခိုင်နန်းတော်ကို မီးရှို့ခဲ့ကြသည်။ နန်းလုရန် ကြိုးပမ်းကြသည်။ နှစ်ပေါင်း ၂၀ ခန့် ဆူပူသောင်းကျန်းခဲ့ကြသည်။ စန္ဒဝိဇယမင်း (၁၇၁၀-၃၀) လက်ထက်တွင် ၎င်းကမန်များကို ရမ်းဗြဲကျွန်းသို့ပို့ခဲ့သည်။ စစ်တွေမြို့နယ်၊ သင်းကနက်၊ သာယာကုန်းရွာများ၌ ကမန်အဆက်အနွယ်များကို တွေ့ရသေးသည်။ ရမ်းဗြဲကျွန်းရောက် ကမန်တချို့သည် သံတွဲမြို့မြောက်ပိုင်းသာဒေး ကျေးရွာ ၃ ရွာသို့ ပြောင်းရွှေ့အခြေစိုက်ခဲ့ကြသည်။

ရခိုင်မင်းဗာဘုရင် (၁၅၃၁-၅၃) လက်ထက် ရှိခဲ့သည့် မွတ်ဆလင်ကုလားများကို သံတွဲမြို့၊ ဆံတော်၊ အံတော်၊ နံတော်ဘုရား



များ၌ ကျွန်အဖြစ် လှူဒါန်းခဲ့သည်။ စန္ဒဝိဇယမင်းလက်ထက်၌ ၎င်းမွတ်ဆလင် ၃၇၀၀ ကျော်မှာ အင်းဝသို့ထွက်ပြေးကြပြီး မြေဒူးမြို့၌ ရွာတည်၍နေခဲ့သည်။ ဘိုးတော်ဘုရား ရခိုင်ကို လာသိမ်းချိန်၌ မြေဒူးမွတ်ဆလင် ယူနစ်တစ်ခုပါလာခဲ့သည်။ ၎င်းမွတ်ဆလင်အဆက်အနွယ်များမှာ သံတွဲ၌ပင် ပြန်လည်နေထိုင်ခဲ့သည်။ ၎င်းကမန်များ၊ မြေဒူးမွတ်ဆလင်များ၊ မြောက်ဦးခေတ် လက်ကျန်မွတ်ဆလင်များမှာ အရေအတွက်အားဖြင့် နည်းပါသည်။

(ဂ) မြို့ဝန်ခေတ် ရခိုင်အခြေအနေ

မြန်မာဘုရင် ဘိုးတော်ဘုရားသည် ၁၇၈၄ တွင် ရခိုင်ကို တိုက်ခိုက်သိမ်းယူပြီး ဓညဝတီ၊ ရမ္မဝတီ၊ ဒွါရာဝတီ၊ မေဃဝတီဟူ၍ ဝတီလေးရပ်ခွဲခြမ်းပြီး မြန်မာမြို့ဝန်လေးဦးဖြင့် ဖွဲ့စည်းအုပ်ချုပ်ခဲ့ပါသည်။ မြန်မာမင်းအုပ်ချုပ်သည့် မြို့ဝန်ခေတ်နှစ်ပေါင်း ၄၀ အတွင်း စစ်ဘေးစစ်ဒဏ်၊ အခွန်အခဒဏ်များကြောင့် စစ်တကောင်း၊ ဘင်္ဂလားနယ်သို့ တစ်သုတ်ပြီးတစ်သုတ် ထွက်ပြေးခဲ့ကြရသည်။ လူသိန်းချီပြီး သေဆုံးခဲ့ကြသည်။ ရခိုင်တို့သည် အင်္ဂလိပ်ပိုင်နက်သို့ ထွက်ပြေးခိုလှုံခဲ့ကြသည်။ အင်္ဂလိပ်တို့သည် ၁၇၅၇ ခုနှစ်ကပင် plassey(ပလာစီ) စစ်ပွဲ၌ မဂိုဘုရင်ကို စစ်နိုင်သဖြင့် ဘင်္ဂလားဒေသ၊ ကာလကတ္တားတောင်ပိုင်းကို အင်္ဂလိပ်အရှေ့အိန္ဒိယကုမ္ပဏီအား ပေးထားသည်။ စစ်ပြေးရခိုင်များသည် မဂိုလက်ထဲမှ သိမ်းပိုက်ထားသော်လည်း အင်္ဂလိပ်တို့ အုပ်ချုပ်ရေး အခြေမချနိုင်သေးသည့် နယ်စပ်ဒေသ စစ်တကောင်းနယ်တောများထဲ၌ ခိုလှုံခဲ့ကြခြင်း ဖြစ်သည်။ (Akyab

Gazatteer) စစ်ပြေးရခိုင်များ အခြေချခဲ့သည့် နေရာများမှာ ရာမူး (Ramu)(ခ) ပင်းဝါ၊ ကော့ဇဘာ (Cox's Bazar)(ခ) ဖလောင်းချိတ် နှင့် ဟာရာဗင်း (Harbang) တို့ ဖြစ်ကြသည်။

သံတွဲ၊ ရမ်းဗြဲ၊ မာန်အောင်ဘက်မှ ရခိုင်များက ပင်လယ်ကို ဖြတ်ပြီး လှေ၊ သမ္ဗာန်များဖြင့် ပြေးကြရသည်။ သူတို့မှာ ဂင်္ဂါမြစ်ဝ ရှိ ကျွန်းများကို ရောက်သွားကြသည်။ ကာလကတ္တားမြို့နှင့် နီးသည်။ 'ဘင်္ဂလားအဝကျွန်း' ဟု ခေါ်သည်။ ကျွန်းငါးကျွန်း၌ အခြေစိုက်ခဲ့ကြ ပြီး ဒုတိယကမ္ဘာစစ်မတိုင်မီထိ ရွာပေါင်း ၁၆၀ ရှိခဲ့သည်။

၁၈၁၀ ခုနှစ် H.Barney ၏ အစီရင်ခံစာအရ ပြည်ထဲ၌ ရခိုင်အိမ်ခြေ ၂၃၂၃၁၀ ဆောင် ၂.၃ သိန်း ရှိခဲ့ကြောင်း သိရသည်။ ရခိုင်လူဦးရေ ပျမ်းမျှ ၁၀ သိန်းကျော်ခန့်ရှိမည်ဖြစ်သည်။ ၁၈၁၀ ခုနှစ် အမိန့်တော် ပြန်တမ်း၊ ၁၈၁၆ ခုနှစ် ဗဒုံမင်းထံတင်ပြသည့် အိမ်ခြေစာရင်းများအရလည်း ၁၈၁၀ မှ ၁၈၁၆ ထိကြားကာလမှာ ရခိုင်အိမ်ခြေ ၂ သိန်းကျော်ရှိပြီး လူဦးရေ ၁၀ သိန်းကျော်ရှိကြောင်း တွေ့ရသည်။ မြို့ဝန်ခေတ်၌ ဗမာပြည်အမရပူရသို့ ရခိုင်လူဦးရေ ၂ သိန်းခန့် ဖမ်းဆီးခေါ်ဆောင်ခံခဲ့ကြရသည်။

အင်္ဂလိပ်တို့ ရခိုင်ကိုသိမ်းပြီးနောက် ၁၈၂၆ ခုနှစ်တွင် စစ်တမ်းကောက်ရာ ရခိုင်၌ လူဦးရေတစ်သိန်းခန့်သာလျှင် ကျန်သည်။ ရခိုင်တို့မှာ အမိဇာတိမြေမှ ဝေးရာသို့ သက်စွန့်ဆံဖျားထွက်ပြေးသွား ခဲ့ကြရသည်။



အဝေးရောက်ရခိုင်များ

အိန္ဒိယတြိပူရနယ်၌ အေဒီ ၁၀ ရာစုကာလက အမတ်ကြီး ခမ္မဓေယျနှင့်အတူ တိမ်းရှောင်သွားကြပြီး အခြေချနေထိုင်သွားကြ သည့် ရခိုင်မျိုးနွယ်များရှိကြသည်။ မရမာများဟု ခေါ်သည်။ အေဒီ ၁၇ ရာစု နရပတိမင်းလက်ထက် တိမ်းရှောင်သွားကြသည့် ရခိုင် မျိုးနွယ်များ စစ်တကောင်းနယ်၊ ကံသာတွင် ရှိကြသည်။ မရမာဟု ပင် ခေါ်သည်။ မင်းရာဇာကြီးလက်ထက်က ချထားပေးသူများလည်း ရှိကြသည်။ ဘင်္ဂါ ၁၂ မြို့ကို ရခိုင်တို့ ပိုင်စိုးစဉ်ကပင် နေထိုင်လာခဲ့ ကြသည့် ရခိုင်များမှာ ယခုဘင်္ဂလားဒေ့ရှ်နိုင်ငံ၊ သက်ထောင်၊ ဖလံ ထောင်၊ ဗိုလ်မင်းထောင်တို့တွင် ရှိနေကြသည်။ မြို့ဝန်ခေတ်တွင် ထွက်ပြေးသွားကြသူ ရခိုင်များမှာလည်း ရာမူး (ခ) ပင်းဝါ၊ Cox's Bazar(ခ) ဖလောင်းချိတ်၊ ဟာရဗင်း (Harbang)၊ ဘင်္ဂလားအဝကျွန်း တို့တွင် ရှိနေကြသည်။ ပင်းဝါ၌ လူဦးရေ တစ်သိန်းခန့်ရှိမည် ဆိုသည်။ (King Berning-p-479)။ Cox's Bazar (ဖလောင်းချိတ်) မှာမြို့ဖြစ်ပြီး ကျေးရွာပေါင်း ၅၂ ရွာ ရှိခဲ့သည် ဟု ဆိုသည်။ (ရိုးမလူ၊ အမင်ရှာ၊ ရိုးမဂ္ဂဇင်း) ၁၇၉၉ တွင် ရခိုင်ဒုက္ခသည် ၅၀၀၀၀ ခန့် ရှိခဲ့သည်ဟုသိရသည်။ ဟာရဗင်း Harbang၌ ပတ်ဝန်းကျင်ရခိုင်ရွာ ၁၁ ရွာ ရှိခဲ့သည်။ အဝကျွန်း၌ ရွာပေါင်း ၁၆၀ ခန့် ရှိခဲ့သည်။

စစ်ဘေးစစ်ဒဏ်ကြောင့် ခေတ်အဆက်ဆက်ဒေသ စွန့်ခွာ ထွက်ပြေးသွားခဲ့ကြရသည့် အဝေးရောက် ရခိုင်များသည် မိမိမျိုးနွယ် များရှိရာ ဌာနေအမိမြေသို့ ပြန်လာလိုကြသူများ ရှိပါမည်။ တည်ဆဲ ဥပဒေများအရ ပြန်လာရန် အခွင့်မသာ၍ ဆက်နေနေကြရသည်။

လူမျိုးမတူ၊ ဘာသာမတူ၊ ဓလေ့ထုံးတမ်း၊ ယဉ်ကျေးမှု၊ အယူဝါဒမတူသူများနှင့် ခက်ခဲစွာ ဆက်ဆံပေါင်းသင်းနေထိုင်လာခဲ့ကြရသည်။ ထိုသူများအရေးမှာလည်း ထည့်သွင်းစဉ်းစားသင့်သည့်အကြောင်းအချက်တစ်ရပ်ပင် ဖြစ်ပါသည်။

(ဃ) နယ်ချဲ့အင်္ဂလိပ်ခေတ်မှစ၍ ဘင်္ဂလီမွတ်ဆလင်များဝင်ရောက်လာခြင်း

မြန်မာမင်းများ ရခိုင်ကို နှစ်ပေါင်း ၄၀ အုပ်ချုပ်ခဲ့ကြပြီးနောက် ၁၈၂၅ ခုနှစ်တွင် နယ်ချဲ့အင်္ဂလိပ်တို့ ထပ်မံတိုက်ခိုက်သိမ်းပိုက်လိုက်ကြသည်။ ယခင်ကပင် အင်္ဂလိပ်တို့သိမ်းပိုက်ထားပြီးဖြစ်သည့် အိန္ဒိယဘင်္ဂလားနယ်နှင့် ရခိုင်ဒေသမှာ တစ်ပေါင်းတည်း ဖြစ်သွားတော့သည်။

အင်္ဂလိပ်တို့သည် ၁၈၂၆ ခုနှစ်တွင် ရခိုင်မြို့တော်ကို မြောက်ဦးမြို့မှ စစ်တွေမြို့သို့ ပြောင်းရွှေ့တည်ထောင်ဖွဲ့စည်းခဲ့သည်။ အင်္ဂလိပ်သိမ်းပိုက်ပြီးနောက် စစ်တွေမြို့တွင် ဘင်္ဂလီအမြောက်အမြားအခြေစိုက်လာသည်။ သို့သော် စစ်တွေမြို့တော်တည်စက ဘင်္ဂလီမွတ်ဆလင်ဦးရေမှာ ၅၀၀၀ ထက် မကျော်ပေ။ (Akyab Gazatteer, p-100)

စစ်တကောင်းသားများ တိုးဝင်လာခြင်း

နယ်ချဲ့အင်္ဂလိပ်လက်ထက်တွင် ရခိုင်၌ စစ်ဘေးစစ်ဒဏ်များကြောင့် တိုင်းရင်းသားလူဦးရေ လျော့နည်းသွားခဲ့ရသည်။ အင်္ဂလိပ်တို့သည် ရခိုင်ဒေသ၌ ဧကပေါင်း မြောက်မြားစွာသော မြေလွတ်၊ မြေလပ်၊ မြေရိုင်းများကို လုပ်ကိုင်နိုင်ရန် လူဦးရေ တူထပ်ပြီး ဆင်းရဲမွဲတေလှသော စစ်တကောင်းဒေသမှ ဘင်္ဂလီများကို လယ်ကူလီအဖြစ်ဈေးနှုန်းချိုသာစွာဖြင့် ခေါ်ယူငှားရမ်းအသုံးပြုခဲ့ကြသည်။ ၁၈၂၆ ခုနှစ်တွင် မွတ်ဆလင်ဦးရေ ၅၀၀၀ ဦးခန့်ရှိခဲ့ရာမှ ၁၈၇၂ ခုနှစ်တွင် စစ်တွေခရိုင်၌ မွတ်ဆလင်ဦးရေ ၅၈၂၃၅ ဦးထိတိုးလာခဲ့သည်။ ၁၈၆၉ ခုနှစ်တွင် စူးအက်တူးမြောင်းဖွင့်လှစ်ပြီးနောက် ကုန်သွယ်မှု လွယ်ကူမြန်ဆန်လာကာ လယ်လုပ်ငန်းများ တိုးချဲ့လာသည်။ စစ်တကောင်းဒေသမှ ဘင်္ဂလီများကို လယ်ကူလီများ၊ ကုန်တင်ကုန်ချ အလုပ်သမားများအဖြစ် နှစ်စဉ်လိုလို အင်္ဂလိပ်ကုမ္ပဏီပိုင် သင်္ဘောများဖြင့် အမြောက်အမြား တင်သွင်းအသုံးပြုခဲ့ကြသည်။ လယ်မြေသစ်များ ဖော်ထုတ်သည်။

၁၈၇၂ ခုနှစ်တွင် အင်္ဂလိပ်-မြန်မာနှင့် အင်္ဂလိပ်-ဘင်္ဂလား သန်းခေါင်စာရင်းမှတ်တမ်းများအရ စစ်တကောင်းခရိုင်မှ ရခိုင်သို့ ဝင်ရောက်လာသူများတွင် နဝါခါလီမှကျား (၅၀·၇%) မ(၄၉·၃%)၊ တီပါရာမှ ကျား (၅၈·၇%) မ (၄၁·၃%)၊ စစ်တကောင်းမှ ကျား (၄၇·၇%) မ (၅၂·၃%) ဖြစ်ကြောင်း တွေ့ရသည်။ [ပစ္ဆိမရပ်ဝန်းမဂ္ဂဇင်း၊ ၂၀၁၁၊ 'လူလူပာစ်တယ်'၊ ခိုင်ကျော်(ဥပဒေ)]

၁၈၈၀-၈၁ ခုနှစ်တွင် ဘင်္ဂလီကုလားအလုပ်သမား ၄၀၀၀၀ ကျော် မြန်မာနိုင်ငံထဲသို့ ဝင်ရောက်ခဲ့ပြီး နှစ်ကုန်သည့်အခါ ၁၈၀၀၀ ဦးသာ အိန္ဒိယသို့ပြန်ခဲ့ကြောင်း၊ ၁၈၈၃-၈၄ တွင် ၈၃၀၀၀ ဦး ဝင်ရောက်ခဲ့ပြီး နှစ်ကုန်သည့်အခါ ၄၃၀၀၀ ဦးမှာ မပြန်ဘဲမြန်မာနိုင်ငံ၌ အခြေချချန်နေခဲ့ကြောင်း တွေ့ရပါသည်။ အင်္ဂလိပ်တို့က ဘင်္ဂလီကုလားများကို သင်္ဘောများဖြင့် တစ်နှစ် နှစ်ကြိမ် အလုပ်ကြမ်းလုပ်ရန် ခေါ်သွင်းခဲ့ကြောင်း တွေ့ရှိရသည်။ ၁၉၀၁ ခုနှစ် သန်းခေါင်စာရင်း

အရ စစ်တွေခရိုင်၌ မွတ်ဆလင်ဦးရေ ၁၇၆၈၄၂ ဦး ရှိလာခဲ့သည်။ တစ်နှစ်ပျမ်းမျှ စစ်တကောင်းသား လယ်ကူလီဦးရေ ၄၀၀၀၀ ကျော် ဝင်လေ့ရှိ ကြောင်း၊ စစ်တွေခရိုင်၌နေထိုင်သော အိန္ဒိယသားများအနက် (၈၈%) မှာ စစ်တကောင်းကုလားများဖြစ်ကြောင်း တွေ့ရသည်။

မောင်တောမြို့နယ်၌ ၁၉၀၁ ခုနှစ် လူဦးရေတိုးနှုန်းမှာ (၂၁%)၊ ၁၉၁၁ ခုနှစ် လူဦးရေသိပ်သည်းမှုမှာ မောင်တော၌ ၂၃၀ ဦး၊ စစ်တွေ၌ ၆၃၁၆၁ ဦး၊ ဘူသီးတောင်၌ ၈၀ ဦး ဖြစ်သည်။ မောင်တောမြို့နယ်၌ ၁၉၂၁ ခုနှစ်တွင် ဘင်္ဂလီမွတ်ဆလင် ၆၈၀၃၅ ဦးရှိပြီး တိုင်းရင်းသားဦးရေ ၂၂၆၀၉ ဦးရှိခဲ့သည်။ မွတ်ဆလင်ဦးရေမှာ ၁၉၄၃ ခုနှစ်တွင် ၁၀၄၃၀၈ ဦး၊ ၁၉၄၁ တွင် ၁၂၅၄၅၂ ဦး၊ ၁၉၅၆ တွင် ၁၈၇၇၉၂ ဦး၊ ၁၉၇၈ တွင် ၂၃၅၀၆၇ ဦး၊ ၁၉၈၁ တွင် ၂၄၁၉၉၃ ဦး၊ ၁၉၈၆ တွင် ၂၆၄၅၀၇ ဦး ဖြစ်ကြောင်းတွေ့ရသည်။ နှစ်ပေါင်း ၆၀ ကျော်ကာလအတွင်း ဘင်္ဂလီဦးရေ နှစ်သိန်းခန့်တိုးလာသည်ကို တွေ့ရသည်။ မွတ်ဆလင်ဦးရေသည် စစ်တွေခရိုင် (ဘူးသီးတောင်၊ မောင်တောအပါအဝင်)၌ ၁၈၇၂ ခုနှစ်တွင် ၅၈၂၅၅ ဦးသာ ရှိခဲ့ပြီး ၁၉၈၃ ခုနှစ် ၅၃၉၃၆၉ ဦးထိရှိလာခဲ့သည်။ ပုံမှန်လူဦးရေတိုးနှုန်း (၂%) ဖြင့် တွက်ချက်ပါက လူဦးရေတစ်သိန်းရှစ်သောင်းကျော်သာ ရှိရမည်ဖြစ်ရာ သုံးသိန်းသုံးသောင်းကျော်မှာ နှစ် ၁၀၀ အတွင်း ခိုးဝင်လာကြသူများဖြစ်ကြပါသည်။ ဘင်္ဂလီမွတ်ဆလင်များ တရားမဝင် ဝင်ရောက်မှု၌ ဖဆပလက မဲနိုင်ရေးအတွက် ကုလားများကို ဒလဟော ဝင်ရောက်စေခဲ့ခြင်းမှာလည်း အဓိကအချက်တစ်ချက်ဖြစ်သည်။



(င) ဒုတိယကမ္ဘာစစ်ကာလကုလား – ရခိုင်အဓိကရုဏ်း (၁၉၄၂)

ရခိုင်၌ ဘင်္ဂလီမွတ်ဆလင်များ နှစ်စဉ်တိုးလာရခြင်းသည် ဒေသခံရခိုင်များအတွက် နောင်တွင် အန္တရာယ်ကြီးဖြစ်လာစေနိုင်သည်ဟု နယ်ချဲ့အင်္ဂလိပ်တို့ယူဆပြီး ၁၉၃၉ ခုနှစ်တွင် စုံစမ်းရေးကော်မရှင်ဖွဲ့ကာ စုံစမ်းခဲ့သည်။ ကော်မရှင်အစီရင်ခံစာပါ အိန္ဒိယလူမျိုးစာရင်းတွင် စစ်တွေခရိုင်၌ ၂၁၀၉၉၀ ဦး၊ ရခိုင်တောင်တန်းနယ်၌ ၅၀၀ ဦး၊ ကျောက်ဖြူခရိုင်၌ ၄၃၂၁ ဦး၊ သံတွဲခရိုင်၌ ၁၉၉၀ ဦး၊ စုစုပေါင်း ၂၁၇၈၀၁ ဦး ဖော်ပြထားသည်။ ကော်မရှင်က ယခုကဲ့သို့ စစ်တကောင်းမွတ်ဆလင်များ အဆက်မပြတ် ရခိုင်သို့ ဝင်ရောက်နေခြင်းအား မတားဆီးနိုင်ပါက နောင်အနာဂါတ်၌ လူမျိုးရေးအဓိကရုဏ်းများဖြစ်ပွားမည်ကို စိုးရိမ်ကြောင်း၊ မွတ်ဆလင်ဝင်ရောက်မှုကို တားဆီးသင့်ကြောင်း အကြံပြုခဲ့ကြသည်။

၁၉၄၁ ခုနှစ်တွင် ဒုတိယကမ္ဘာစစ်ဖြစ်သည့်အခါ အင်္ဂလိပ်တို့သည် စစ်အဆုတ်၌ ၎င်းတို့ယူမသွားနိုင်သည့် လက်များကို ကျန်ခဲ့သည့် ရာဇပုတ်ကုလားစစ်သားများ လက်ထဲ အပ်ပေးခဲ့ပြီး ကုလား–ရခိုင် အဓိကရုဏ်းကို ဖန်တီးပေးခဲ့ကြသည်။ စစ်တွေမြို့၌ ရခိုင်အိမ်များကို တုတ်၊ ဓားကိုင် ကုလားများက ဝင်ရောက်ပြီး လုယက်သောင်းကျန်းကြသည်။ သေနတ်ကိုင် ရာဇပုတ်ကုလားစစ်သားက စစ်တကောင်းကုလားသောင်းကျန်းသူများနှင့် အတူ ပါဝင်ခဲ့ကြသည်။ အချို့ရခိုင်များကို ရာဇပုတ်ကုလားစစ်သားများက သတ်ဖြတ်ခဲ့ကြသည်။ အင်္ဂလိပ်စစ်တပ်မှ ကျန်ခဲ့သည့် သေနတ်ကိုင် ရာဇပုတ် ကုလားစစ်သားများသည် စစ်တွေရှိ စစ်တကောင်းကုလားများနှင့် ပူးပေါင်း

ပြီး ရခိုင်အမျိုးသားများကို သတ်ဖြတ်မှုစတင်ခဲ့သည်။

၁၉၄၂ ခုနှစ်တွင် မြေပုံမြို့နယ်၊ ချောင်းကြီးရွာသူကြီး ညီအစ်ကိုတို့ကို ရက်ချောင်းရွာမှ ကုလားများက သတ်ဖြတ်ခြင်းမှ စတင်ပြီး ကုလား-ရခိုင် အဓိကရုဏ်းဖြစ်ခဲ့သည်။ မောင်တော၊ ဘူးသီးတောင်၊ ရသေ့တောင်နယ်ရှိ ရခိုင်များကို မီးရှို့ပြီး ရခိုင်တိုင်းရင်းသားများကို သတ်ဖြတ်ခဲ့ကြသည်။ ရခိုင်လူမျိုး ၂၀၀၀၀ ခန့် အသက်ဆုံးရှုံးခဲ့ရပြီး ရွာပေါင်းမြောက်မြားစွာ ပြာကျခဲ့ရသည်။ မောင်တော၊ ဘူးသီးတောင်မြို့နယ်တို့ရှိ ရခိုင်ရွာများအားလုံး ပြာပုံဖြစ်ခဲ့ရပြီး ရသေ့တောင်မြို့နယ်မှ ရခိုင်ရွာအချို့လည်း မီးရှို့ခံရသည်။ ဘူးသီးတောင်၊ မောင်တောမှာ ကုလားများ လွှမ်းမိုးသောဒေသဖြစ်သွားခဲ့သည်။

၁၉၄၂ ခုနှစ် အဓိကရုဏ်းမတိုင်မီ ဘူးသီးတောင်၊ မောင်တောမြို့နယ်၌ ရခိုင်ရွာပေါင်း ၅၀၀ ကျော်ရှိခဲ့ရာ အားလုံး မီးရှို့ခံခဲ့ကြရသည်။ စစ်ပြီးနောက်ပိုင်း၌ ၆၈ ရွာ ပြန်လည်တည်ထောင်နိုင်ခဲ့သော်လည်း နောင်တွင်မူ ဂျာဟာစ်သူပုန်ထသောအခါ ထပ်မံမီးရှို့သတ်ဖြတ်ခံကြရပြီး ၆၁ ရွာ ဖျက်ဆီးခံခဲ့ရသည်။

မောင်တော၊ ဘူးသီးတောင်ရှိရွာများမှ ဒေသခံရခိုင်တိုင်းရင်းသားများမှာ မိမိဘိုးဘွားပိုင် အိုးအိမ်၊ မြေယာကိုစွန့်ပြီး ကျောက်တော်၊ မြောက်ဦး၊ ပုဏ္ဏားကျွန်း၊ ပေါက်တော၊ မြေပုံ၊ စစ်တွေ စသည့်မြို့နယ်များသို့ ပြောင်းရွှေ့နေထိုင်ခဲ့ကြရသည်မှာ ယနေ့တိုင်ပင် ဖြစ်ပါသည်။



(စ) နယ်ချဲ့အင်္ဂလိပ်တို့၏မွတ်ဆလင်ပြည်နယ်ထူထောင်ရေး သွေးထိုးမှု

ကုလား-ရခိုင် အဓိကရုဏ်းကြောင့် ရခိုင်များ တစ်ဦးမကျန် ထွက်ပြေးလာခဲ့ကြသောအခါ မောင်တော၊ ဘူးသီးတောင်နယ်ကို မွတ်ဆလင်ပြည်နယ် ထူထောင်ပေးရန် နယ်ချဲ့အင်္ဂလိပ်တို့ စိတ်ကူးရလာသည်။ ဗြိတိသျှအရာရှိများက 'မွတ်ဆလင်ပြည်နယ် ထူထောင်ပေးမည်' ဟူသောစကားသည် မောင်တော၊ ဘူးသီးတောင်မြို့နယ်များရှိ ဘင်္ဂလီကုလားများအား မွတ်ဆလင်သီးခြားဒေသတစ်ခု ဖြစ်ပေါ်လာရေးအတွက် စတင်မီးမွှေးလေပင့်ပေးခဲ့သလို ဖြစ်စေခဲ့ပါသည်။ စစ်တကောင်းသား ဘင်္ဂလီများသည် 'မွတ်ဆလင်ပြည် ထူထောင်ရေး' စတင်လှုပ်ရှားလာခဲ့ကြသည်။ နောင်တွင် မူဂျာဟစ်သူပုန် လှုပ်ရှားမှု ပေါ်လာတော့သည်။

ဘူးသီးတောင်၊ မောင်တောမှ စစ်တကောင်းသား ဘင်္ဂလီကုလားများ '**မွတ်ဆလင်ပြည်နယ် ထူထောင်ရေး**' လှုပ်ရှားနေချိန်၌ အိန္ဒိယရှိ မွတ်ဆလင်များကလည်း သီးခြား(ပါကိစ္စတန်)နိုင်ငံ ထူထောင်ရေး တောင်းဆိုနေချိန်ဖြစ်သည်။ ဘူးသီးတောင်၊ မောင်တောမှ ဘင်္ဂလီများက မြန်မာနိုင်ငံမှ ခွဲထွက်ပြီး အိန္ဒိယ၌ဖြစ်ပေါ်လာမည့် ပါကိစ္စတန် နိုင်ငံနှင့်ပေါင်းစည်းရေးထိ လှုပ်ရှားခဲ့ကြသည်။ ၁၉၄၂ ခုနှစ်တွင် ကရာချီမြို့၌ ကျင်းပသော အစ္စလမ်ညီလာခံ၌ ပါကိစ္စတန်နှင့် ပေါင်းစည်းရေးအဆိုတစ်ရပ် တင်သွင်းခဲ့ပြီး ပါကိစ္စတန်နယ်တွင် ထည့်သွင်း သတ်မှတ်ပေးရန် ဗြိတိသျှအစိုးရထံ အသနားခံရေးထိ ကြိုးစားခဲ့ကြသည်။ ၁၉၄၆ တွင် Jan I-tvl-une, Islrm ပေါ်ပေါက်လာရာ

ငှင်းပါတီက ၁၉၄၇ ခုနှစ်တွင် ကရာချီသို့သွားကာ ပါကိုစ္စတန် လွတ်မြောက်ရေးလှုပ်ရှားနေသော မွတ်ဆလင်ခေါင်းဆောင် မစ္စတာဂျင်နာနှင့် တွေ့ဆုံပြီး ဘူးသီးတောင်၊ မောင်တော၊ ရသေ့တောင်မြို့နယ်တို့ကို ပါကိုစ္စတန်နိုင်ငံနှင့် ပူးပေါင်းခွင့်တောင်းဆိုခဲ့။ ရခိုင်ခေါင်းဆောင်များက ထိုကိစ္စကို ဗိုလ်ချုပ်အောင်ဆန်းထံ တင်ပြခဲ့ပြီး ဗိုလ်ချုပ်က မစ္စတာဂျင်နာနှင့်တွေ့ဆုံကာ ထိုကိစ္စကို ဆွေးနွေးတင်ပြခဲ့ရသည်။ မစ္စတာဂျင်နာက မြန်မာပိုင်နက်ကို တစ်လက်မပင် ပါကိုစ္စတန်ထဲ ထည့်သွင်းရယူမည် မဟုတ်ကြောင်း ရိုးသားဖြောင့်မတ်စွာ စာပြန်ကြားခဲ့သည်။ ထို့ကြောင့် မွတ်ဆလင်ပြည်နယ် ထူထောင်ရေး၊ ပါကိုစ္စတန်နှင့် ပူးပေါင်းရေးအကြံ မအောင်မြင်ခဲ့ခြင်းဖြစ်သည်။

ဗြိတိသျှနယ်ချဲ့တို့သည် စစ်တကောင်းသားတို့၏ နယ်သစ်ချဲ့ရေးဝါဒကို စတင်မျိုးစေ့ချပေးခဲ့သူများ၊ စတင်မီးမွေးခဲ့သူများဖြစ်သည်။

(ဆ) မူဂျာဟစ်သူပုန်ထခြင်း

မောင်တောမြို့တွင် မွတ်ဆလင်များဖွဲ့ထားသည့် (ဇမီယတူအူလာမာ)အသင်း၏ အကြံဖြင့် မွတ်ဆလင်အရာရှိအချို့ဦးဆောင်ပြီး ၁၉၄၇ ခုနှစ် 'မူဂျာဟစ်သူပုန်အဖွဲ့' ကို လျှို့ဝှက်ဖွဲ့စည်းခဲ့ကြသည်။ မောင်တော၊ ဘူးသီးတောင်၊ ရသေ့တောင်နယ်များကို ပြည်ထောင်စုမြန်မာနိုင်ငံမှ ခွဲထွက်ပြီး ပါကိုစ္စတန်ပြည်နှင့် ပူးပေါင်းရေး ရည်ရွယ်ချက်ဖြင့် ဖွဲ့ခြင်းဖြစ်သည်။ မူဂျာဟစ်သူပုန်အဖွဲ့ကို မြေပေါ်ရှိ (ဇမီယာ တူအူလာမာ) အသင်းက ညွှန်ကြားသည်။

၁၉၄၅-၄၆ ခုနှစ် ၄င်းအသင်းနှင့် အစိုးရဝန်ထမ်းမွတ်ဆလင်



များ ပူးပေါင်းပြီး 'စာသင်ကျောင်းထူထောင်ရန်' ခေါင်းစဉ်တပ်ပြီး ရန်ပုံငွေကောက်ခံစုဆောင်းကာ မူဂျာဟစ်သူပုန်များအတွက် လက်နက်ခဲယမ်းများ ဝယ်ခဲ့ကြသည်။ တစ်ဖက်၌ အပေါ်ယံလူမြင်ကောင်းစေရန် အာရဗီစာသင်ကျောင်း ၁၃ ကျောင်း ထူထောင်ခဲ့ကြသည်။ ထိုကျောင်းများတွင် မြန်မာစာကို သင်ကြားခြင်းလုံးဝမရှိခဲ့ကြပါ။ အာရဗီဘာသာနှင့် အူရဒူစာကိုသာ သင်ကြားကြသည်။

၁၉၄၇ ခုနှစ် ဒီဇင်ဘာလတွင် ဒူရာလာရွာ၌ ဘာသာရေးဂိုဏ်းအုပ် (မူလနာမူဟာမက် မူဂျာဟက်ခန်) နှင့် ဘာသာရေးခေါင်းဆောင်တစ်စုက ၄င်းကျောင်း ၁၃ ကျောင်း၌ မြန်မာစာကို လုံးဝမသင်ကြားရေး၊ သင်ကြားရန် အစိုးရက တောင်းဆိုလာပါက ညီညွတ်စွာတော်လှန်ကြရန် ဆုံးဖြတ်ခဲ့ကြသည်။ ထိုဂိုဏ်းချုပ်ကြီးက မြန်မာအစိုးရအား မူဂျာဟစ်သူပုန်များ တိုက်ခိုက်မည့်အခါ လိုက်နာရန် ညွှန်ကြားချက်များကိုလည်း ဖြန့်ဝေခဲ့သည်။ လွတ်လပ်ရေးရပြီးနောက် ၁၉၄၈ ခုနှစ် ဧပြီလတွင် (ဇမီယာတူအူလာမာ) အသင်းဝင်လူကြီးတို့သည် ဖဆပလထဲ ဝင်ရောက်လာကြပြီး လွှမ်းမိုးနေရာယူလာကြသည်။

၁၉၄၈ ဇွန်လတွင် ဘီအေအူမော်များနှင့် ဇဖာဟူစိန်တို့သည် မူဂျာဟစ်အစိုးရ အမည်တပ်၍ ဘင်္ဂလီစာ၊ အူရဒူစာများဖြင့် ကြော်ငြာများဖြန့်လာခဲ့သည်။ မြန်မာအစိုးရကို 'ပါပမင်း' ဟု သမုဒ်ခဲ့ကြသည်။ ၁၉၄၈ တွင် မွတ်ဆလင်လွတ်မြောက်ရေးအဖွဲ့ (MLO) ညီလာခံကို မောင်တောမြို့နယ် ဂရဗျာယ်ရွာ၌ ကျင်းပခဲ့သည်။ အဖွဲ့အမည်ကို 'မူဂျာဟစ်ပါတီ' ဟု ပြောင်းလဲဖွဲ့စည်းခဲ့သည်။

- ကုလားတန်မြစ်အနောက်ဘက်ကမ်းနှင့် နတ်မြစ်အရှေ့ကမ်းကြား ဒေသကို မွတ်ဆလင်တို့၏ National Home အဖြစ် သတ်မှတ်ပေးရန်။
- ရခိုင်ရှိ မွတ်ဆလင်များကို တိုင်းရင်းသားစာရင်းထဲ ထည့်ရန် စသည့်အချက်များကို ထည့်သွင်းတောင်းခံနေခဲ့ကြသည်။

၁၉၅၁ ခုနှစ်တွင် အလယ်သံကျော်မွတ်ဆလင်ညီလာခံကျင်းပပြီး 'မွတ်ဆလင်ပြည်နယ်' ထူထောင်ရေး ထပ်မံတောင်းဆိုခဲ့ကြသည်။

(၁) အလယ်သံကျော်ညီလာခံ (၁၉၅၁ ခုနှစ်၊ ဇွန်)

အလယ်သံကျော်ညီလာခံသည် စစ်တကောင်းသားဘင်္ဂလီများ၏ 'မွတ်ဆလင်ပြည်နယ်' ထူထောင်ရေးလှုပ်ရှားမှု၌ အဓိက လှုပ်ရှားမှုတစ်ခု ဖြစ်သည်။ မူဂျာဟစ်သူပုန်အင်အားကောင်းနေချိန်တွင် ပြုလုပ်ကြခြင်းဖြစ်သည်။ မူဂျာဟစ်သူပုန်များသည် မောင်တောမြို့ကလွဲ၍ မြို့နယ်တစ်ခုလုံးကို ထိန်းချုပ်ထားနိုင်သည့်အချိန် ဖြစ်သည်။

အလယ်သံကျော်ညီလာခံ၌ မြန်မာအစိုးရအား အဓိကတောင်းဆိုချက်များမှာ -

- လွတ်လပ်သော မွတ်ဆလင်ပြည်နယ် အမြန်ဆုံးဖွဲ့စည်းရန်၊
- စစ်တွေမြို့တော် ကွပ်ကဲမှုကို ရခိုင်နှင့်မွတ်ဆလင် (၅၀%) စီ အုပ်ချုပ်ခွင့်ပြုရန်၊
- ပထမဆုံးမြို့တော်ဝန်နှင့် တိုင်းမင်းကြီးကို မွတ်ဆလင်ထဲမှ ခန့်ရန်၊



- ရခိုင်ပြည်နယ် လက်နက်ကိုင်တပ်ဖွဲ့တွင် မွတ်ဆလင် (၅၀%) ပါဝင်ရန်
- ဗဟိုအစိုးရတွင် မွတ်ဆလင်ဆိုင်ရာ ဝန်ကြီးခန့်ရန်၊
- မွတ်ဆလင်ကောင်စီ ထားရှိခွင့်ပြုရန်၊
- မွတ်ဆလင်အထက်တန်းကျောင်း၊ ကောလိပ်များ တည်ထောင်ခွင့်ပြုရန် စသည့်အချက်များ ပါဝင်သည်။

(ခိုင်မျိုးစောင့်၊ ဘုံပေါက်သာကျော်)

ထိုအချိန်က 'ရိုဟင်ဂျာ' ဟူသော ဝေါဟာရတစ်လုံးတစ်ပါဒမျှ မပါရှိခဲ့ပါ။ ဖဆပလ ဘူးသီးတောင်အမတ် အဗ္ဗဒူဂဖားက ၁၉၅၁ ခု၊ ဩဂုတ်လ ၂၈ ရက်နေ့ထုတ် The Guardian (ဂါဒီယန်) သတင်းစာ၌ စတင်ရေးသားရာမှ 'ရိုဟင်ဂျာ' သမိုင်းလိမ်ဇာတ်လမ်းစခဲ့ခြင်း ဖြစ်သည်။

ဖဆပလခေတ်၌ 'ရွေးကောက်ပွဲနိုင်ရင်ပြီးရော' ဆိုပြီး မွတ်ဆလင် မိသားစုများကို တစ်ဖက်နိုင်ငံမှ မျက်စိမှိတ်ပြီး အစုလိုက်၊ အပြုံလိုက် ဝင်ခွင့်ပြုခဲ့ခြင်း၊ နိုင်ငံသားယာယီကတ်များ ထုတ်ပေးပြီး မဲစာရင်းကို ထည့်ပေးခဲ့ခြင်းများသည် မြန်မာ့နိုင်ငံရေးသမိုင်းစာမျက်နှာ၌ အမည်းစက်ကြီးများ ဖြစ်ခဲ့သည်။ တိုင်းပြည်ကို အကျဉ်းအကျပ်ထဲရောက်စေခဲ့သည်။ နောင်အနာဂတ်ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်သစ်၌ အလားတူအမှားမျိုး ထပ်တလဲလဲ မမှားကြစေရန် တိကျပြတ်သားသော အဖြေရှာပြီး ဆုံးဖြတ်ကြရန် အရေးတကြီးတာဝန်ရှိလာပြီ ဖြစ်ပါသည်။

ဘင်္ဂလီမွတ်ဆလင်များသည် ရခိုင်ပြည်နယ်၌ သီးခြားအချုပ်အခြာအာဏာနှင့် နယ်မြေပိုင်ဆိုင်မှုကို ရယူနိုင်ရန် ကြီးမားသောအကြံအစည်ရှိကြောင်းကို အလယ်သံကျော်ညီလာခံ တောင်းဆိုချက်များက သက်သေခံနေပါသည်။

အလယ်သံကျော်ရွာသည် ၁၉၄၂ ခုနှစ် ကုလား-ရခိုင်အဓိကရုဏ်းမဖြစ်မီက အိမ်ခြေ ၂၀၀ ကျော်ရှိသည့် ရခိုင်ရွာဖြစ်သည်။ ကုလားများ မီးရှို့၊ သတ်ဖြတ်၍ ထွက်ပြေးခဲ့ကြရပြီးနောက် ကုလားရွာဖြစ်သွားသည်။ ရခိုင်၌ မူဂျာဟစ်သောင်းကျန်းမှုမှာ ၁၉၆၁ ခုနှစ်ထိ ရှည်ကြာခဲ့သည်။ ရခိုင်တိုင်းရင်းသားများကို သတ်ဖြတ်ခြင်း၊ အမျိုးသမီးများကို မုဒိမ်းကျင့်ခြင်းများ ပြုလုပ်ခဲ့ကြသည်။ ရွာများ၊ ကျောင်းများ မီးရှို့၊ စေတီဘုရား၊ ပုထိုးများ ဖျက်ဆီးခဲ့ကြသည်။ ထိုလုပ်ရှားမှုများ၌ ဘင်္ဂလီပါလီမန်အမတ်များလည်း ပါဝင်ခဲ့ကြသည်။

ပါလီမန်အမတ် စုလတန်မာမွတ်မှာ စစ်တွေ၊ မောင်တောမြို့များ၌ နေထိုင်ခဲ့ပြီး စစ်တွေအနောက်ဘက် ပင်လယ်ကမ်းခြေတစ်လျှောက်၌ အုန်းတောကြီး စိုက်ခဲ့သူဖြစ်သည်။ ထိုအုန်းတောကြီးမှာ ယခုထိရှိနေသည်။ ၎င်းအုန်းတောကြီးမှနေ၍ တစ်ဖက်နိုင်ငံသို့ မှောင်ခိုကုန်ကူးပြီး ချမ်းသာခဲ့သူဖြစ်သည်။ တစ်ဖက်နိုင်ငံမှ ဘင်္ဂလီကုလားများကို သဲချောင်း။ သင်္ကေပြင်၊ သံတော်လီ စသည့်ရွာများ၌ နေထိုင်စေရန် တရားမဝင် ခိုးသွင်းခဲ့သူလည်း ဖြစ်သည်။ မြန်မာနိုင်ငံထဲရှိ ဘင်္ဂလီလူငယ်များကို အရှေ့ပါကိစ္စတန်၌ စစ်သင်တန်းတက်ရန် ပို့ခဲ့သူလည်း ဖြစ်သည်။ ထိုအချိန်က စုလတန်မာမွတ်ပိုင် အုန်းတောထဲသို့ ရခိုင်သားများ လုံးဝ မသွားရဲသည့်အနေအထားထိ ဖြစ်ခဲ့ကြသည်။



(ဇ) ဖဆပလ မွတ်ဆလင်အမတ်များနှင့် ရိုဟင်ဂျာ

စုလတန်မာမွတ်သည် ဖဆပလအမတ်ဖြစ်လာပြီး ဖဆပလအစိုးရအဖွဲ့၌ ကျန်းမာရေးဝန်ကြီးထိ ဖြစ်ခဲ့သည်။ မူဂျာဟစ်သူပုန်များအရေးနိမ့်ပြီး နောက်အမတ်အဗ္ဗဒူဂေါ်ဖားတို့ ရိုဟင်ဂျာလူမျိုးလိမ်ဖြင့် စတင်လှုပ်ရှားကြရာ၌ စုလတန်မာမွတ်လည်း ပါဝင်ခဲ့သည်။ ဖဆပလအမတ် ဆူလတန်မာမွတ်နှင့် နာမည်တူ မောင်တောမြို့ မြို့သူကြီးရွာကလျင်တန်း မူလတန်းကျောင်းအုပ် ဆူလတန်မာမွတ်မှာလည်း ရိုဟင်ဂျာခေါင်းဆောင်တစ်ဦး ဖြစ်သည်။ ၁၉၆၂ ခုနှစ် တော်လှန်ရေးကောင်စီ တက်လာသည့်အခါ နိုင်ငံရေးအသင်းအဖွဲ့များကို ဖျက်သိမ်းခဲ့ရာ ရိုဟင်ဂျာအမည်ခံ မွတ်ဆလင်အသင်းအဖွဲ့များလည်း ဖျက်သိမ်းခံခဲ့ရသည်။ မူလတန်းကျောင်းအုပ် စုလတန်မာမွတ်လည်း အရှေ့ပါကိစ္စတန်သို့ ထွက်ပြေးသွားသည်။ RSO, RPF, RIF စသည်ဖြင့် မြေအောက်လက်နက်ကိုင် သောင်းကျန်းအဖွဲ့များဖွဲ့ကာ ဆူပူလှုပ်ရှားလာခဲ့ကြသည်။ RIF ၏ လျို့ဝှက်ခေါင်းဆောင်မှာ မူလတန်းကျောင်းအုပ် စုလတန်မာမွတ်ဖြစ်သည်။ အရှေ့ပါကိစ္စတန်နယ်စပ်၌ RIF လက်နက်ကိုင်ဘင်္ဂလီလူငယ် ၁၁ ဦးကို ဖမ်းမိ၍ မြန်မာအစိုးရကအရေးယူသည့်အခါ ဖဆပလအမတ် စုလတန်မာမွတ်ကိုယ်တိုင်တရားခံဘက်မှ အကျိုးဆောင်ပေးခဲ့သည်။ ဖဆပလအမတ် ဆူလတန်မာမွတ်သည်လည်း RIF ၏ လျို့ဝှက်အဖွဲ့ဝင်ဖြစ်သည်။ ၎င်းသည် ရခိုင်မြေကို ဇာတိမြေ (Home Land) ဘိုးဘွားပိုင်မြေဟု စတင်သုံးခဲ့သူဖြစ်သည်။

မွတ်ဆလင်ပါလီမန်အမတ်များ၊ ဝန်ကြီးများသည် မောင်တော၊ ဘူးသီးတောင်၊ ရသေ့တောင်နယ်များကို ရခိုင်(အာရကန်)နှင့် အရှေ့ပါကိစ္စတန်ကြားရှိ 'အာရကိစ္စတန်' (Arkistan) အမည်ဖြင့် နိုင်ငံ ထူထောင်ရေးအထိ ရည်ရွယ်ပြီး ဆက်တိုက်ကြိုးပမ်းလှုပ်ရှားလာခဲ့ကြခြင်း ဖြစ်သည်။ ဘင်္ဂလီပါလီမန်အမတ်များက 'ဘင်္ဂလီ'အမည်ကို မခံကြဘဲ 'ရခိုင်မွတ်ဆလင်' (သို့) 'ရိုဟင်ဂျာ' လူမျိုးအဖြစ် လူမျိုးသစ်တစ်မျိုး ပြောင်းလဲဖြစ်ပေါ်လာစေရန် ကြံစည်လှုပ်ရှားကြသည်။ ဘာမသိ ညာမသိ သာမန်ဘင်္ဂလီထုကို နည်းလမ်းမျိုးစုံဖြင့် စည်းရုံးလှုံ့ဆော်ခဲ့ကြသည်။ ၎င်းတို့မှာ **ဘင်္ဂလားဒေသမှလာသည့် ဘင်္ဂလီကုလားများဆိုသည့်လမ်းကြောင်းကို ဖျောက်ဖျက်ရန် ကြံစည်ကြခြင်း ဖြစ်သည်။** မိမိတို့မျိုးနွယ်၊ ဇာတိမျိုးရိုးလမ်းကို ဖျောက်ဖျက်ထိန်ချန်ရန် ဝန်မလေးသူသည် တခြားသူပိုင်မြေ၊ တခြားလူမျိုးတို့ကို ဖျောက်ဖျက်ပစ်ရန်မှာ မခက်ခဲသည်ကို စဉ်းစားစရာပင် မလိုပေ။

(၂) ဝင်ကစွပ်များ

ရိုဟင်ဂျာအမည်ခံ ဘင်္ဂလီမွတ်ဆလင်များမှာ အမှန်က ဝင်ကစွပ်ကောင်များသာ ဖြစ်ကြသည်။ ရခိုင်ပြည်နယ်တစ်ခုလုံးရှိ ဘင်္ဂလီ မွတ်ဆလင်များနေထိုင်ကြသည့်ရွာအမည်များကို ဆန်းစစ်ကြည့်ကြပါ။ ရွာအမည်အားလုံးနီးပါး ရခိုင်ဝေါဟာရအခေါ်အဝေါ်ဖြင့် ရွာအမည်များ ဖြစ်ကြသည်။ ဘင်္ဂလီကုလားကုလားဝေါဟာရဖြင့် အမည်မှည့်ထား သည့်ရွာများမှာ 'ပါရာ၊ ပါရီ၊ ခါလာ၊ ခါလီ၊ တူလာ၊ တူလီ၊ ကာလာ၊ ကာလီ၊ ဘော်ဒီ၊ ဒီယာ...' စသည့်



စကားလုံးများဖြင့် ဆုံးတတ်ပါသည်။ တစ်ဖက် ဘင်္ဂလားဒေ့ရှ်မှ ကျေးလက်ရွာအမည်များ နှင့်ယှဉ်ကြည့်ပါက ထင်ရှားသိသာပါမည်။ ရခိုင်ပြည်နယ်ရှိ မြို့နယ် များမှ ရွာများမှာ အားလုံးနီးပါး ရခိုင်အမည်ဖြင့်သာရှိကြသည်။ ရခိုင် အမည်ပေါက်ရွာများမှာ ယခုအခါ အားလုံးကုလားလွှမ်းမိုးသွားပြီ။ ဂြင်းချောင်း၊ စံပါယ်ပင်ရင်း၊ ငစံဘော်၊ မောင်နှမ၊ မာန်အောင်၊ သာစည်၊ ဒါးပိုင်ဆရာ၊ ကြာညိုပြင်၊ ဥယျာဉ်သာ၊ စေတီတောင်၊ ကင်းတောင်၊ သပိတ်တောင်၊ သိမ်တောင်၊ ကျောင်းတောင် ... စသည့်အမည်များမှာ ဘင်္ဂလီအမည်ဖြစ်ပါမည်လား။ ဝေဖန်ဆင်ခြင် ကြည့်ပါ။ ယခုအားလုံး **ဘင်္ဂလီကုလားရွာ။ ရွာတစ်ရွာ ရပ်တစ်ရပ်ကို အမည်ပြောင်းလိုက ပြည်ထဲရေးဝန်ကြီးထိ တင်ပြပြီး ခွင့်ပြုချက်ယူရသဖြင့် ကျေးရွာများမှာ မူလရခိုင်အမည် မပျောက်သေးခြင်း ဖြစ်သည်။** သက်ဆိုင်ရာ မြေစာရင်းဌာနများ၊ လယ်ယာစိုက်ပျိုးရေးဌာနများ၊ တရားရုံး၊ စာသင်ကျောင်း စသည်ဖြင့် မည်သည့်နေရာ၊ ဌာနကိုသွားမေးမေး ရိုဟင်ဂျာ လူမျိုးလိမ်ကို **'မကြားဘူး၊ မရှိဘူး'** ဟုသာ ဖြေကြပါလိမ့်မည်။ ၁၉၄၂ ခုနှစ် အဓိကရုဏ်းကြောင့်လည်းကောင်း၊ မူဂျာဟစ် သူပုန်ရန်သောင်းကျန်းမှုများကြောင့်လည်းကောင်း ရခိုင်အိမ်များ၊ ရွာများ၊ ကျောင်းများ ဖျက်ဆီးခံခဲ့ကြ ရသည်။ သတ်ဖြတ်၊ မုဒိမ်းကျင့်ခြင်း ခံခဲ့ကြရသည်။ ရခိုင်တိုင်းရင်းသားများမှာ ရွာပုန်း၊ ရွာရှောင်ဘဝဖြင့် မိမိမြေဌာ မိမိသက်စွန့်ဆန်ဖျား ထွက်ပြေးခဲ့ကြရသည်။ မူလနေရာသို့ ပြန်မလှည့်နိုင်ကြတော့ဘဲ ကုလားတန်လွင်ပြင်၊ လေးမြို့လွင်ပြင်များသို့ ပြောင်းရွှေ့ရောက်ရှိ လာခဲ့ကြရသည်။ ရခိုင်တိုင်းရင်းသားများ၏

ကျန်ရစ်ခဲ့သည့် ကိုယ်ထည်ထဲ၌ ဝင်ကစွပ်ကောင်များ ဝင်ရောက်နေရာယူကာ ပိုင်ရှင်ခံနေကြရတော့သည်။

(ဈ) ဖဆပလခေတ်မှစ၍ ယင်းနောက်ပိုင်းအခြေအနေများ

ဦးနု ဖဆပလသည် ရခိုင်လူထုထောက်ခံမဲကို မရမည်စိုး၍ ဘင်္ဂလီမွတ်ဆလင်တို့၏ မဲကို ရရှိရန် မျှော်လင့်အားကိုးပြီး ကြံစည်ဆောင်ရွက်ခဲ့သည်။ ထိုအချိန်က ရခိုင်တွင် ဖဆပလနှင့်အပြိုင် 'ရတည' (ရခိုင်တိုင်းရင်းသားစည်းလုံးညီညွတ်ရေး)ပါတီရှိနေသည်။ ရတညပါတီမှာ ရခိုင်ကို အခြေခံပြီးဖွဲ့ထားသော ပါတီဖြစ်သည်။ ရတညပါတီခေါင်းဆောင်မှာ ဦးကျော်မင်းဖြစ်သည်။ ဖဆပလခေါင်းဆောင် ဦးနုက တိုင်းပြည်အကျိုးထက် ပါတီအကျိုးကိုကြည့်ပြီး ဖဆပလ အမတ်ဦးရေတိုးပွားရေးကို မျှော်ကိုးကာ ဘူးသီးတောင်၊ မောင်တောမြို့နယ်များမှ မွတ်ဆလင်များ ခိုးဝင်နေခြင်းကို ဥပဒေနှင့်အညီစိစစ်ခြင်းမပြုဘဲ ၁၉၅၅-၅၆ တွင် မှတ်ပုံတင်ကတ်များ ထုတ်ပေးခဲ့သည်။ ၁၉၅၆ ခုနှစ် ပြည်သူ့လွှတ်တော်ရွေးကောက်ပွဲ၌ ဘူးသီးတောင်မြို့နယ်တွင် မဲဆန္ဒနယ်တစ်နယ် ပိုသတ်မှတ်ပေးပြီး မွတ်ဆလင်များကို ဖဆပလသို့ ဝင်ရန် သိမ်းသွင်းစည်းရုံးခဲ့သည်။ ဘင်္ဂလီ အဘူခိုင်အဘူဘော်ရှော၊ ဆန်လတန်မာမွတ် စသူတို့ကို ဖဆပလအမတ်အဖြစ် ရွေးကောက်ပွဲ၌ အရွေးခံစေခဲ့ရာ မဲအနိုင်ရခဲ့ကြသည်။ ထိုသို့အနိုင်မဲများ ရရှိစေရန် တစ်ဖက်နိုင်ငံမှ စစ်တကောင်းကုလားများကို ခေါ်သွင်းပြီး မဲပေးခွင့်ရအောင် ဖန်တီးခဲ့ကြသည်။ စစ်တကောင်းကုလားများ မရေမတွက်နိုင်လောက်အောင် အဆမတန် ဝင်ရောက်အခြေချနိုင်ခဲ့



ကြသည်။ ဦးခင်မောင်လတ် (ခ) အဒူလဒစ် (တရားရေးဝန်ကြီး)က ထောက်ခံချက်ပေးပြီး ဘင်္ဂလီမြောက်မြားစွာခေါ်သွင်းခဲ့သည်။ ဘင်္ဂလီရွာပေါင်း ၄၀ ကျော်ထိ ချက်ချင်းတိုးပွားသွားခဲ့သည်။ ဖဆပလ၌ မွတ်ဆလင်အမတ်ဖြစ်ရေးအတွက် မွတ်ဆလင်ကုန်သည်များက နောက်ကွယ်က အပြည့်အဝထောက်ပံ့ကူညီခဲ့ကြသည်။ ဘင်္ဂလီမွတ်ဆလင်များ ဖဆပလအမတ်ရာထူး၊ ဝန်ကြီးရာထူးများ ရလာကြရာ ၎င်းတို့၏ ရာထူးအာဏာကိုအသုံးချပြီး ရခိုင်ပြည်ထဲသို့ စစ်တကောင်းဒေသမှ မွတ်ဆလင်များကို အလွယ်တကူဝင်ရောက် အခြေချနိုင်အောင် အကာအကွယ်ပေးခဲ့ကြသည်။ မူဂျာဟစ်သူပုန်ထစေခဲ့သည်။ ရိုဟင်ဂျာသမိုင်းလိမ်ကို ဖန်တီးခဲ့ကြသည်။ ဘင်္ဂလီတို့၏ တရားမဝင်မှောင်ခိုကုန်သွယ်မှုလုပ်ငန်းများ၊ မြေအောက်လှုပ်ရှားမှုများ၊ ဘင်္ဂလီများ ခိုးဝင်ခိုးထွက်ကိစ္စများ၌ ပါဝင်ခဲ့ကြသည်။ ရိုဟင်ဂျာဟူသော လူမျိုးတစ်မျိုးအဖြစ် အစိုးရက အသိအမှတ်ပြုလာစေရန် နည်းပေါင်းစုံဖြင့် အားထုတ်လာခဲ့ကြသည်။ နယ်ချဲ့အင်္ဂလိပ်ခေတ် ဖဆပလခေတ်တစ်လျှောက်လုံး စစ်တကောင်းကုလားများမှာ တံခါးမရှိ၊ ဓားမရှိ ဝင်ထွက်သွားလာအခြေချနိုင်ခွင့်ရခဲ့ကြသည်။ 'ပစ်မနိုင် ခါမကျ'သည့်အခြေအနေထိ ဆိုက်ရောက်ကာ ရခိုင်တိုင်းရင်းသားတို့မှာ ကိုလိုနီဝါဒဆိုးမွေကို ခါးစည်းကာသာ နာကြည်းစွာ ခံစားလာခဲ့ကြရပါသည်။

ရတညပါတီနှင့် ရခိုင်လူထုအဖွဲ့အစည်းများက ရခိုင်တိုင်းကို ရခိုင်ပြည်နယ်အဖြစ် သတ်မှတ်ဖွဲ့စည်းပေးရန် တောင်းဆို၍ ပထစအစိုးရလက်ထက်၌ ရခိုင်နှင့်မွန်ကို ပြည်နယ်ပေးရန် ဝန်ကြီးချုပ်ဦးနုက စီစဉ်သည့်အခါ ရခိုင်မှ ဘင်္ဂလီမွတ်ဆလင်အမတ်များနှင့်

မွတ်ဆလင် အဖွဲ့အစည်းများက ကန့်ကွက်ကြသည်။ သတ်မှတ်ပေးမည့် ရခိုင် ပြည်နယ်၌ မောင်တော၊ ဘူးသီးတောင်နှင့် ရသေ့တောင်မြို့နယ် အစိတ်အပိုင်းကို ထည့်သွင်းခြင်းမပြုရန် ကန့်ကွက်ကြသည်။ ယခင်ကပင် ဦးနုက စစ်တကောင်းဘင်္ဂါလီကုလားများကို တရားမဝင် ဝင်ခွင့်ပြုခဲ့ပြီး ၄င်းနယ်မြေများကို မေယုခရိုင်ဟု သတ်မှတ်ထားရှိခဲ့သည်။ ၄င်းမေယုနယ်ခြားခရိုင်ကို ဝန်ကြီးချုပ် ဦးနုက နယ်ခြားအုပ်ချုပ်ရေးဌာနသို့ လွှဲထားကြောင်း ဖော်ပြထားသည်။ ၁၉၆၁ ခုနှစ်တွင် ပထစ အစိုးရက မယူနယ်ကို နယ်ခြားအုပ်ချုပ်ရေးနယ်အဖြစ် ထူထောင်ခဲ့ပြီး စစ်အရာရှိများက အုပ်ချုပ်ခဲ့သည်။

၁၉၆၂ ခုနှစ် မတ်လတွင် စစ်အစိုးရသစ်တက်လာသည့်အခါ ရခိုင်ပြည်နယ်ပေးရေး အစီအစဉ်ကို ဖျက်သိမ်းလိုက်သည်။ မယူခရိုင်မှာ အထူးအုပ်ချုပ်ခံဒေသအဖြစ် သတ်မှတ်ခံခဲ့ရသည်။ ၁၉၆၄ ခုနှစ်တွင် နယ်ခြားအုပ်ချုပ်ရေးကို ဖျက်သိမ်းပြီး စစ်တွေခရိုင်ထဲ၌ ပြန်ထည့်ခဲ့သည်။ တော်လှန်ရေးကောင်စီက မွတ်ဆလင်တို့၏ နိုင်ငံရေးလှုပ်ရှားမှုများ၊ ရိုဟင်ဂျာအမည်ခံလှုပ်ရှားမှုများအားလုံးကို ပိတ်ပင်အဆုံးသတ်စေခဲ့သည်။ (ခိုင်မျိုးစောင့်၊ ခိုင်မြဝါ၊ ဘုံပေါက်သာကျော်)

၁၉၆၂ ခုနှစ် ဗုဒ္ဓဘာသာမဟုတ်သူများမှာ မောင်တောမြို့နယ်၌ ၈၅၃၉ ဦး၊ ဘူးသီးတောင်မြို့နယ်၌ ၄၉၆၀၀ ဦး၊ ရသေ့တောင်မြို့နယ်၌ ၁၁၂၅၃ ဦး ရှိလာခဲ့ပြီး၊ ၁၉၇၂ ခုနှစ်တွင် မောင်တောနယ်၌ ၂၀၆၈၂၉ ဦး၊ ဘူးသီးတောင်နယ်၌ ၁၃၀၂၇၅ ဦး၊ ရသေ့တောင်န[illegible]၆၇၀ ဦးထိ အလျင်အမြန်တိုးပွားလာသည်ကို တွေ့ရသည်။ (၁၀) နှစ်အတွင်း မွတ်ဆလင်များ မည်မျှခိုးဝင်ခဲ့ကြသည်



ကို မတွေးရဲစရာပင်ဖြစ်ပါသည်။

တော်လှန်ရေးကောင်စီလက်ထက်တွင် ရခိုင်တိုင်း၌ ဘင်္ဂါလီမွတ်ဆလင်များ အဆမတန်တိုးပွားနေမှု ပြဿနာကို ၁၉၆၆ အောက်တိုဘာလကစ၍ အလယ်ပိုင်းတိုင်း စစ်ဌာနချုပ် တိုင်းမှူး၏ကွပ်ကဲမှုဖြင့် စတင်ကိုင်တွယ်ဆောင်ရွက်ခဲ့သည်။ စစ်ဆင်ရေးအသွင်ဖြင့် ဘင်္ဂါလီများကို စာရင်းကောက်ယူစစ်ဆေးခဲ့သည်။

(၁) လူဝင်မှုစိစစ်ရေးဆိုင်ရာ စစ်ဆင်ရေးများ

လူဝင်မှုစိစစ်ရေးဆိုင်ရာ စစ်ဆင်ရေးနှစ်ခုကို ၁၉၆၆ အောက်တိုဘာလမှ ဒီဇင်ဘာလထိ စစ်ဆေးစာရင်းကောက်ယူခဲ့သည်။ ကျီးကန်းစစ်ဆင်ရေးအရ စစ်တွေ၊ မြေပုံ၊ ကျောက်တော်၊ ပုဏ္ဏားကျွန်း၊ သံတွဲနှင့် တောင်ကုတ်မြို့နယ်များအတွင်း စိမ့်ဝင်နေသည့် ဘင်္ဂါလီမွတ်ဆလင် ၁၃၀၇ ဦးကို မောင်တောမြို့နယ်သို့ ပြန်ပို့ခဲ့သည်။ ရွှေကျီးစစ်ဆင်ရေးအရ မောင်တောခရိုင်ခွဲရှိ ကြိမ်ချောင်း၊ အလယ်သံကျော်မြို့နယ်ခွဲများရှိ ကျေးရွာအုပ်စု ၂၃ ခုတွင် ဘင်္ဂါလီမွတ်ဆလင် ၅၃၆၇၄ ဦးတို့ကို စစ်ဆေးစာရင်းကောက်ယူခဲ့သည်။

၁၉၆၉ ခု ဖေဖော်ဝါရီလတွင် မြတ်မွန်စစ်ဆင်ရေး ပြုလုပ်ခဲ့သည်။ စစ်တွေခရိုင်နှင့် ကျောက်ဖြူခရိုင်အတွင်း ဘင်္ဂါလီမွတ်ဆလင် ခိုးဝင်လာမှုကို စိစစ်ခြင်း၊ မှတ်တမ်းတင်ခြင်း လူဦးရေစာရင်းများ ကောက်ယူခြင်းများ ဆောင်ရွက်ခဲ့သည်။ (ဦးရွှေဇံ၊ ဘင်္ဂါလီမွတ်ဆလင် လေ့လာချက်)

၁၉၇၄ ဖေဖော်ဝါရီမှ ဒီဇင်ဘာလထိ စပွါယ်စစ်ဆင်ရေး

ဆောင်ရွက်ခဲ့သည်။ ချင်းဝိသေသတိုင်း၊ ကချင်ပြည်နယ်နှင့် ရှမ်းပြည်နယ်အသီးသီးသို့ မတရားခိုးဝင်လာသူ နိုင်ငံခြားသားအားလုံးကို စစ်ဆေးဖမ်းဆီး အရေးယူခဲ့သော စစ်ဆင်ရေးဖြစ်သည်။ ရခိုင်တိုင်းအတွင်းသို့ မတရားခိုးဝင်လာသူ ဘင်္ဂလားဒေ့ရှ်နိုင်ငံသား ၉၇၇ ဦး၊ နိုင်ငံခြားသားမှတ်ပုံတင် အက်ဥပဒေကျူးလွန်သူ ၆၆၃ ဦးနှင့် နိုင်ငံခြားသားသံသယရှိသူ ၁၈၂၅၄ ဦးကို စစ်ဆေးတွေ့ရှိအရေးယူခဲ့သည်။ (ဦးရွှေဇံ၊ ခိုင်မျိုးစောင့်)။ ၁၉၇၅ ခုနှစ် စစ်ဆေးရေးအဖွဲ့အစီရင်ခံစာအရ မောင်တောမြို့နယ်မှ ၁၄၁၅ ဦး၊ ဘူးသီးတောင်မြို့နယ်မှ ၃၅ ဦးမှာ ဘင်္ဂလားဒေ့ရှ်နိုင်ငံသို့ ပြန်လည်ထွက်ပြေးခဲ့ကြကြောင်း သိရသည်။ (ဦးရွှေဇံ)

နဂါးမင်းစီမံချက်ကို ပြည်ထဲရေးနှင့် သာသနာရေးဝန်ကြီးဌာနက တာဝန်ယူရေးဆွဲခဲ့ပြီး ၁၉၇၆ နိုဝင်ဘာ ၁၆ တွင် ဝန်ကြီးများအစည်းအဝေးက အတည်ပြုခဲ့ကြသည်။ ရည်ရွယ်ချက်မှာ နိုင်ငံသား၊ နိုင်ငံခြားသားတိတိကျကျ ခွဲခြားမှတ်ပုံတင်ရန် ဖြစ်သည်။ စစ်တွေမြို့နယ်တွင် စီမံချက် ပထမအဆင့်ကို ၁၁-၂-၁၉၇၈ နေ့ လဝကဝန်ထမ်းအင်အား ၂၀၀ ဖြင့် စစ်ဆေးခဲ့သည်။ ၁၈-၂-၁၉၇၈ နေ့ထိ စစ်ဆေးခဲ့သည်။ စစ်ဆေးချက်အရ လူဦးရေ ၃၆၈၂၄ ဦးရှိသည်။ ဥပဒေဖောက်ဖျက်ကျူးလွန်သူ ၁၃၁၆ ဦးကို အထူးတရားရုံး ၅ ရုံးက လဝက ဥပဒေအရလည်းကောင်း၊ ၁၀၂၅ ဦးကို နိုင်ငံခြားသားမှတ်ပုံတင်ရေးနှင့် အမျိုးသားအက်ဥပဒေအရလည်းကောင်း အရေးယူစစ်ဆေးခဲ့သည်။ စီမံချက် ဒုတိယအဆင့်ကို ဘူးသီးတောင်မြို့နယ်နှင့် မောင်တောမြို့နယ်များ၌ လဝကဝန်ထမ်းအင်အား ၄၀၀ ဖြင့်



၁၇-၃-၇၈ နေ့မှ ၅-၆-၇၈ နေ့ထိ ဆောင်ရွက်ခဲ့သည်။ ဘူးသီးတောင်မြို့နယ် ကျေးရွာ၊ ရပ်ကွက် စုစုပေါင်း ၈၃ ခု၊ အိမ်ထောင်စု ၁၇၉၁၃ ခု၊ လူဦးရေ ၁၀၈၄၃ ဦးကို စစ်ဆေးခဲ့သည်။ စစ်ဆေးမှုကို ကြောက်ပြီး ၃၅၅၉၆ ဦး ထွက်ပြေးသွားခဲ့သည်။ အိမ် ၆၂၉၄ လုံး စွန့်ပစ်ထားခဲ့ကြသည်။ ဥပဒေချိုးဖောက်သူ ၆၄၃ ဦးကို တရားစွဲခဲ့သည်။ မောင်တောမြို့နယ်တွင် အိမ်ထောင်စု ၃၉၄၁၈ ခု၊ လူဦးရေ ၁၂၅၈၉၃ ဦးကို စစ်ဆေးခဲ့သည်။ စစ်ဆေးမခံဝံ့၍ ထွက်ပြေးသူ ၈၅၇၀၅ ဦး စွန့်ပစ်အိမ်ပေါင်း ၁၂၅၂၂ လုံး၊ တရားစွဲခံရသူ ၄၅၈ ဦး ရှိသည်။ (မောင်တောဖြစ်စဉ်သမိုင်း စာ - ၁၁၉)

နဂါးမင်းစီမံချက်ကို ဆန့်ကျင်သည့်အကြမ်းဖက် ဘင်္ဂလီမွတ်ဆလင်များသည် ဗုံးများဖောက်ခွဲခြင်း၊ တံတားများကို မီးရှို့ခြင်း၊ အစိုးရဆန့်ကျင်ရေးစာရွက်စာတမ်း၊ စာအုပ်များ ဖြန့်ဝေခြင်း၊ 'ဘင်္ဂလားဒေ့ရှ်ဂျိန်နာ့ဘတ်' ကြွေးကြော်သံများ စုရုံးကြွေးကြော်သောင်းကျန်းခြင်းများ ပြုလုပ်ခဲ့ကြသည်။ (မောင်တောဖြစ်စဉ်သမိုင်း၊ စာ - ၁၂၀)။ စီမံချက်ဆန့်ကျင်ရေးဘင်္ဂလီစည်းဝေးပွဲများ ပြုလုပ်ပြီး တိုင်းရင်းသားများကို ရန်ပြုရန် စီစဉ်ကြသည်။ ဘင်္ဂလီခေါင်းဆောင် ၁၃ ဦးကို ဖမ်းဆီးထိန်းသိမ်းခဲ့ရသည်။ ဘင်္ဂလားဒေ့ရှ်သို့ ထွက်ပြေးသွားကြသည့် ဘင်္ဂလီများ ပြန်လည်ခိုးဝင်လာကြပြီး ၁၉၇၈ မတ်လ ၁၆ ရက် စေတီပြင်ရွာ၊ မြစ်နားရွာ၊ မောင်နီရွာ၊ ဒါးပိုင်ဆရာရွာများမှ အိမ်များကို မီးရှို့ကြသည်။ ဗလီတစ်လုံး၊ မူလတန်းကျောင်းတစ်ကျောင်း၊ အိမ် ၁၀ လုံးခန့် မီးလောင်သွားသည်။ မတ် ၂၆ တွင် ထပ်မံမီးရှို့ရာ အောင်လံပြင်၊ အိုးသည်မရွာများ၌ အိမ် ၅ လုံး၊ စာသင်ကျောင်းတစ်

ကျောင်း မီးလောင်ခဲ့သည်။ မတ်လ ၂၂ ရက်နေ့တွင် ဘူးသီးတောင်၊ မောင်တောသွားလမ်းရှိ တံတားအမှတ် (၁) ကို မီးရှို့၍ လုံးဝပျက်စီးသွားခဲ့သည်။ ဧပြီ ၂၄ ရက်နေ့တွင် တံတားအမှတ် (၇/၁၀) (ဖမိုင်တံတား)ကို မီးရှို့ဖျက်ဆီးကြသည်။ ဘူးသီးတောင်မြို့နယ်မှ ဘင်္ဂလားဒေ့ရှ်နိုင်ငံသို့ အစုလိုက် အပြုံလိုက်ထွက်ပြေးသွားသည်။ တောင်ပြိုကျေးရွာပြည်သူ့ကောင်စီရုံးကို မီးရှို့ခဲ့ကြသည်။ (မောင်တောဖြစ်စဉ်သမိုင်း)

နဂါးမင်းစီမံချက်စစ်ဆင်ရေးကြောင့် ဘင်္ဂလားဒေ့ရှ်နိုင်ငံသို့ ထွက်ပြေးသွားသည့် အိမ်ထောင်စုပေါင်း ၂၅၉၀၅ စု၊ လူဦးရေ ၁၅၆၆၃၁ ဦး ဖြစ်သည်။ (ခိုင်မျိုးစောင့်) သတင်းမီဒီယာဆောင်းပါးများတွင် မြန်မာအစိုးရက ဘင်္ဂလီမွတ်ဆလင်များ တစ်သိန်းနီးပါးကို သုတ်သင်ရှင်းလင်းခဲ့သည်ဟု လိမ်လည်ဖော်ပြပြီး သွေးထိုးလှုံ့ဆော်ပေးခဲ့ကြသည်။ နဂါးမင်း စီမံချက်စစ်ဆင်ရေးကြောင့် ဘင်္ဂလားဒေ့ရှ်နိုင်ငံသို့ ထွက်ပြေး ဘင်္ဂလီဦးရေမှာ ၂၅၀၀၀၀ ကျော်ရှိသည်ဆိုကာ ၁၉၇၈၊ မေလတွင် UNHCR က စတင်ပါဝင်လာခဲ့သည်။

နှစ်နိုင်ငံသဘောတူညီချက်အရ ထွက်ပြေးဘင်္ဂလီများကို 'ဟာသ်ာစီမံချက်'ဖြင့် ပြန်လည်လက်ခံရေးကို ၃၁-၇-၇၈ နေ့တွင် ရေးဆွဲထုတ်ပြန်ခဲ့ရသည်။ ပြန်လည်လက်ခံရေး အစီအစဉ်အရ မြန်မာနိုင်ငံက လက်ခံခဲ့ရသည့် မွတ်ဆလင်ဦးရေမှာ **၁၈၇၃၃၃** ဦးဖြစ်သည်။ **၃၃၁၀၃** ဦးကို အပိုလက်ခံခဲ့ရသည်။

# အပိုင်း (ခ)

# ရိုဟင်ဂျာအကြမ်းဖက် သောင်းကျန်းမှုများ

မြန်မာ့ဆိုရှယ်လမ်းစဉ်ပါတီအစိုးရသည် တော်လှန်ရေးကောင်စီ လက်ထက်ကပင် ဘင်္ဂလီမွတ်ဆလင်များ တရားမဝင်ခိုးဝင်မှုပြဿနာကို အကြိမ်ကြိမ်စီမံချက်များချမှတ်ပြီး စစ်ဆင်ရေးများ ပြုလုပ်ကာ ရှင်းလင်းခဲ့ရသည်။ ၁၉၈၂ ခုနှစ်တွင် နိုင်ငံအတွက် မဖြစ်မနေလိုအပ်သည့် မြန်မာနိုင်ငံသားဥပဒေကို ပြဋ္ဌာန်းခဲ့သည်။ ဤဥပဒေအရ ရိုဟင်ဂျာအမည်ခံ စစ်တကောင်းသား ဘင်္ဂလီများမှာ နိုင်ငံသားဖြစ်ခွင့်မရှိပေ။ အကြောင်းအမျိုးမျိုးကြောင့် ဘင်္ဂလားဒေ့ရှ်နိုင်ငံထဲ နေထိုင်လျက်ရှိနေကြသည့် ဗုဒ္ဓဘာသာဝင် ရခိုင်လူမျိုးများမှာ မြန်မာနိုင်ငံ လွတ်လပ်ရေးရပြီးစကာလက မြန်မာနိုင်ငံသို့ ပြန်လည်ဝင်ရောက် အခြေချနေထိုင်ခွင့်ရရှိခဲ့ကြသော်လည်း ဤဥပဒေပြဋ္ဌာန်းလိုက်ပြီးနောက် ၎င်းတို့လည်း ပြန်လာခွင့်မရဘဲရှိနေကြပါသည်။ လမ်းစဉ်ပါတီအစိုးရ ပြုတ်ကျပြီးနောက် နဝတအစိုးရတက်လာသည့်



အခါ ၁၉၇၄ ခုနှစ် ဖွဲ့စည်းပုံအခြေခံဥပဒေမှာ ရပ်စဲသွားခဲ့သည်။ သို့သော် ၁၉၈၂ ခုနှစ် မြန်မာနိုင်ငံသား ဥပဒေမှာ အာဏာ သက်ရောက်လျက်ပင် ရှိနေပါသည်။

'မြန်မာနိုင်ငံသား ဥပဒေ'သည် နိုင်ငံသား၊ နိုင်ငံခြားသား ခွဲခြားနိုင်ရန် ရည်ရွယ်ပြဋ္ဌာန်းခြင်းဖြစ်ပါသည်။ ဥပဒေအရ နိုင်ငံသားမဟုတ်သူများကို ကာကွယ်ခြင်းပင်ဖြစ်သည်။ စစ်တကောင်းနွယ် ဘင်္ဂလီများက ဤဥပဒေကို ပြင်းပြင်းထန်ထန် ကန့်ကွက်ခဲ့ကြသည်။ ၁၉၈၂ ခုနှစ် ဥပဒေက ရိုဟင်ဂျာမှာ ဧည့်နိုင်ငံသားသာဖြစ်သည်ဟု ကြေညာခြင်းဖြစ်ကြောင်း ဝေဖန်ကြသည်။ ဤဥပဒေကို RSO အဖွဲ့ ဥက္ကဋ္ဌ ဒေါက်တာယူနစ်(Moharmed Ywnus)က ပြင်းထန်စွာ ဝေဖန်ခဲ့သည်။

(က) ၁၉၈၈ အရေးအခင်းနှင့် ရိုဟင်ဂျာသောင်းကျန်းမှု

ဒီမိုကရေစီအရေးအခင်းကို အခွင့်ကောင်းယူပြီး ဘင်္ဂလီမွတ်ဆလင်လူပ်ရှားမှုကို အချိန်ကိုက်ဆောင်ရွက်ခဲ့ပါသည်။ ၁၃-၅-၈၈ နေ့ မောင်တောမြို့တွင် ရခိုင်တိုင်းရင်းသားများအားလုံးကို လုပ်ကြံသတ်ဖြတ်ပြီး တစ်ဖက်နိုင်ငံမှ ဘင်္ဂလီများဖြင့် ချက်ချင်းအစားထိုးရန် ကြံစည်မှုကြီး ဖြစ်ခဲ့ပါသည်။ မေ ၁၃ ရက်နေ့သည် ၁၉၄၂ ခုနှစ် ကုလား-ရခိုင် အဓိကရုဏ်းကာလက မောင်တော၊ ဘူးသီးတောင်မှ ရခိုင်တိုင်းရင်းသားများကို စတင်မောင်းထုတ်ခဲ့သောနေ့၊ ၎င်းတို့၏ အောင်ပွဲခံသောနေ့အဖြစ် ခံယူပြီး လုပ်ကြံခဲ့ကြခြင်းဖြစ်သည်။ ထိုနေ့ညတွင် ဘင်္ဂလီငါးသောင်းခန့် မောင်တောမြို့ကို ချီတက်ဝိုင်းရံပြီး

**''ရခိုင်သားများကို သတ်ဖြတ်ကြ၊ ဘုရားရှင်အလိုကျ ဘာသာရေး တိုက်ပွဲဆင်နွဲကြ''**ဟု ဟာစ်ကြွေးကာ အပြီးအပိုင်ချေမှုန်းရန် ကြံစည်ခဲ့ကြသည်။ ပြည်သူ့ရဲတပ်ဖွဲ့နှင့် အမှတ် (၂) နယ်ထိန်းတပ်ရင်းက အချိန်မီတားဆီးနိုင်မှုကြောင့် ရခိုင်သားတိုင်းရင်းသားများ အမြစ်ဖြုတ် သတ်ဖြတ်ခံရမည့်ဘေးမှ သီသီကလေး လွတ်မြောက်ခဲ့ကြသည်။ အမှတ် (၄) ရပ်ကွက်ရှိ မြို့သစ်ဘုန်းကြီးကျောင်းကို ဖျက်ဆီးခဲ့ကြပြီး ဗဟိုကျောင်းတိုက်ကို ဝန်းရံထားချိန်၌ ဖြိုခွင်းနိုင်ခဲ့သဖြင့်သာ သက်သာရာ ရခဲ့ခြင်းဖြစ်သည်။

၁၉၈၈ ခုနှစ်၊ စက်တင်ဘာလတွင် မောင်တောမြို့မ၊ ကညင်တန်း အ.ထ.က ကျောင်း၌ ဒီမိုကရေစီသပိတ်ခေါင်းဆောင်များ တရားဟောပြောကြရာ၌ မောင်တောမှ ဘင်္ဂါလီခေါင်းဆောင် ဒေါက်တာထွန်းအောင်(ခ) အဒူလောက် (ယခုအရေးအခင်း၌ ဖမ်းဆီးခံနေရသူ) က (၁၉၈၈ ခုနှစ် မေလက မွတ်ဆလင်အင်အားပြဆန္ဒပြမှုကြီးသည် မြန်မာနိုင်ငံတွင် ပထမဆုံးသော ဒီမိုကရေစီအခွင့်အရေးအတွက် လှုပ်ရှားမှုဖြစ်ကြောင်း ဟောပြောခဲ့သည်။ စစ်တွေမှ ကုလားရှေ့နေ ရွှေမောင်က ''ကုလားများမှာ ရိုဟင်ဂျာများ''ဖြစ်ကြောင်း၊ ''တိုင်းရင်းသားများနှင့် တန်းတူရှိရမည်''ဖြစ်ကြောင်း ဟောပြောခဲ့သည်။

၁၉၈၈ ခုနှစ်၊ မေလ ၁၃ ရက်နေ့က ဘင်္ဂါလီများ၏ ဆူပူအကြမ်းဖက်မှုသည် ဒီမိုကရေစီဆန္ဒပြလှုပ်ရှားမှုနှင့် လုံးထွေးပြီး တမင်ဖန်တီးလုပ်ကြံမှုသက်သက်သာ ဖြစ်ပါသည်။ ''မွတ်ဆလင်မန်ဇိန်ဒဘာတ်'' (မွတ်ဆလင်တို့ အောင်မြင်ပါစေ) ''နာရီယာတိုဘီ စိန်ဒဘတ်၊ အာလ္လာအူကဘာ'' (ဘုရားသခင်သည် အကြီးမြတ်ဆုံးဖြစ်



သည်) ဟူ၍ ကြွေးကြော်ခဲ့ကြပါသည်။ မောင်တောမြို့ပေါ်ရပ်ကွက်များရှိ ရခိုင်အိမ်များ၊ ကျောင်းများ၊ လူများအားလုံးကို မီးရှို့သတ်ဖြတ်ရန် ကြံစည်ခြင်းဖြစ်ပြီး မောင်တောမြို့၌ မီးလောင်သည်မြင်သည်နှင့် နယ်ရှိရခိုင် တိုင်းရင်းသားရွာများကို မီးရှို့သတ်ဖြတ်ရန် ကြိုတင်စီစဉ်ဆောင်ရွက်ခဲ့ကြခြင်းဖြစ်သည်။ ထိုကျရောက်လာမည့်အန္တရာယ်ဆိုးကြီးကို မောင်တောရဲမြို့နယ်မှူး ဦးဘစိန်၊ ရဲစခန်းမှူး ဦးမြထွန်းကျော်တို့ဦးဆောင်သည့် ရဲအဖွဲ့များ၊ မြို့နယ်တရားသူကြီးဥက္ကဋ္ဌ ဦးဘသိန်းတို့က ဦးဆောင်ကာကွယ်ပြီး သေနတ်မိုးပေါ်ထောင်ပစ် ခြိမ်းခြောက်ဟန့်တားခြင်း ပြုလုပ်ခဲ့ရသည်။ ရခိုင်လူငယ်များ၏ ဓား၊ လှံ၊ လက်နက်များဖြင့် အသက်ပေးကာကွယ်ရန် အနီးကပ် ထိပ်တိုက်ရင်ဆိုင်ခဲ့ရသည်။ ရဲစခန်းမှူး မြထွန်းကျော်က အခြေအနေမဟန်တော့သဖြင့် အသက်စွန့်ပြီး ကားဖြင့် ၄ မိုင်ရှိ လုံထိန်းတပ်သို့ သွားရောက်အကြောင်းကြားခဲ့ရသည်။ ဗိုလ်မှူးသိန်းစိုး ခေါင်းဆောင်သော လုံထိန်းအင်အား ၄၀ လိုက်ပါလာပြီး ရွှေစား၊ စံပြ၊ အောင်ဗလ စသည့်ရပ်ကွက်များ၌ အုံကြွနေကြသည့် ဘင်္ဂါလီအကြမ်းဖက်များကို သေနတ်မိုးပေါ်ထောင် ပစ်ပြီး လူစုခွဲရန်နှင့် ရှေ့မတိုးရဲရန် ခြိမ်းခြောက်ဟန့်တားခဲ့ကြရသည်။ မီးစက်ကို တစ်ညလုံး မပိတ်တမ်းနှိုးထားပြီး ရပ်ကွက်များကို စောင့်ကြည့်ကာကွယ်ခဲ့ရသည်။ ဘင်္ဂါလီကုလားများက တစ်ညလုံး အော်ဟစ်ဆူပူသောင်းကျန်းကြသည်။ မြို့နယ်တရားသူကြီးဥက္ကဋ္ဌ ဦးဘသိန်းတို့အဖွဲ့သည် လုံထိန်းတပ်ဖွဲ့ရောက်မလာမီ ထိန်းမနိုင်၊ သိမ်းမရ အခြေအနေရောက်လာသဖြင့် မိမိကိုယ်မိမိ ကာကွယ်ရမည့်အခြေအနေဖြစ်လာ၍ ပစ်မိန့်ပေးခဲ့ရသည်။ လုံထိန်းတပ်မှ ဗိုလ်မှူးသိန်းစိုးတို့အဖွဲ့ ရောက်လာပြီး တာဝန်သိ

စိတ်အပြည့်ဖြင့် စွန့်စွန့်စားစား ပူးပေါင်း ကာကွယ်ခဲ့ကြ၍သာ ၁၉၈၈ ခုနှစ် မေလက မောင်တောမြို့နယ် မကျဆုံးခဲ့ခြင်းဖြစ်ပါသည်။

(ခ) တရားမဝင် အာရဗီကျောင်းများနှင့် နိုင်ငံရေးလှုပ်ရှားမှုကွန်ယက်

၁၉၄၇ ခုနှစ်ကစပြီး မွတ်ဆလင်ဘာသာရေးဂိုဏ်းအုပ် (မူလနာ မူဟာမတ်မူဇာဟက်ခန်)နှင့် မော်လဝီတစ်စု စတင်လမ်းခင်းခဲ့သော အာရဗီစာသင်ကျောင်းများသည် တဖြည်းဖြည်း ကျယ်ပြန့်လာခဲ့သည်။ ၁၉၆၂ ခုနှစ်က မောင်တောမြို့၌ အာရဗီသင်တန်းကျောင်း ၆ ကျောင်း၊ အလယ်တန်းကျောင်း ၁၆ ကျောင်း၊ မူလတန်းကျောင်း ၂၇၆ ကျောင်း ရှိခဲ့ရာမှ ၁၉၈၀ တွင် အာရဗီတက္ကသိုလ် ၂ ကျောင်း၊ အထက်တန်း ကျောင်း ၉ ကျောင်း။ အလယ်တန်းကျောင်း ၁၈ ကျောင်း၊ မူလတန်း ကျောင်း ၃၀၀ ရှိကြောင်း တွေ့ရသည်။ ကျောင်းသားဦးရေမှာ ၁၉၉၀ ခုနှစ်စာရင်းအရ အာရဗီတက္ကသိုလ်၌ ၂၀၀ ဦး၊ အထက်တန်းကျောင်း ၌ ၁၇၅၀ ဦး၊ အလယ်တန်း၌ ၁၈၈၀ ဦး၊ မူလတန်း၌ ၂၃၉၀၀ ဦး ရှိကြောင်း သိရသည်။ ယခုအခါ ရခိုင်တစ်ပြည်နယ်လုံး၌ အာရဗီ တက္ကသိုလ် ၆ ခုရှိကြောင်း သိရပြီး အာရဗီ (ထက်၊လယ်၊မူ)ကျောင်း မည်မျှရှိနေသည်ကို မသိရပါ။

၎င်းကျောင်းများ၌ အာရဗီ၊ အူရဒူ ဘာသာစကားများကို ပေါင်းစပ်ပြီး စာအသစ်တီထွင်ကာ လူမျိုးသစ်၊ နိုင်ငံသစ်ထူထောင်ရန် ကြံစည်နေခြင်းဖြစ်သည်။ ကိုယ်ပိုင်စာပေ၊ ကိုယ်ပိုင်ယဉ်ကျေးမှုနှင့် ကိုယ်ပိုင်နယ်မြေရှိကြောင်း ပြသနိုင်ရေး ရည်ရွယ်ချက်ဖြစ်သည်။ ဘင်္ဂလီစကားထဲသို့ အာရဗီစကားလုံးများ ရောစပ်လိုက်ပြီး စစ်



တကောင်းသား ဘင်္ဂလီမဟုတ်ကြောင်းနှင့် စကားမတူကြောင်း ပြသနိုင်ရန် ၎င်းကျောင်းများမှ အစီအစဉ်တကျ သွတ်သွင်းဆောင်ရွက်လာခဲ့ကြခြင်း ဖြစ်သည်။ လုပ်ဆောင်ချက်များအားလုံးသည် မော်လဝီဆရာများက ဦးဆောင်လုပ်ဆောင်ခဲ့ကြခြင်းဖြစ်သည်။ အကုကုသည် ၎င်းတို့၏ ပြောဆိုချက်၊ ညွှန်ကြားချက်အပေါ်မှာ မူတည်နေသည်။ ၎င်းတို့ စီမံညွှန်ကြားချက်အတိုင်း အားလုံး တညီတညွတ်တည်း လုပ်ဆောင်နေကြခြင်းဖြစ်သည်။

ပြည်တွင်း မော်လဝီဆရာများနှင့် နိုင်ငံတကာမွတ်ဆလင်အဖွဲ့များမှာ ကွန်ယက်ဆက်နွှယ်မှု၊ ထောက်ပံ့မှုများရှိသဖြင့် စနစ်တကျ စီမံဆောင်ရွက်နိုင်ကြခြင်း ဖြစ်သည်။ မောင်တောမြို့နယ်၊ အလယ်သံကျော် ဗလီတစ်ခုတည်းသို့ တစ်နှစ်လျှင် မြန်မာငွေကျပ် သိန်း ၃၀၀၀ ထောက်ပံ့ထားကြောင်း သိရသည်။ အာရဗီစာသင်ကျောင်းများကို ဗလီများက ထိန်းကွပ်ထားခြင်း ဖြစ်သည်။ ၎င်းတရားမဝင်သောကျောင်းများစွာတို့သည် တရားဝင်သဖွယ် ကြီးကျယ်ထင်ရှားစွာ သင်ကြားနေကြသည်ကိုလည်း တွေ့နေရပါသည်။ ၎င်းကျောင်းများသည် မြန်မာ့စာပေ၊ မြန်မာ့ယဉ်ကျေးမှု၊ မြန်မာ့သမိုင်းနှင့် လုံးဝအလှမ်းဝေးပြီး တခြားတစ်ဘာသာ၊ တစ်ကမ္ဘာပင် ဖြစ်ပါသည်။ ၎င်းကျောင်းများသည် RSO၊ အယ်လ်ကိုင်ဒါအဖွဲ့များနှင့် ဆက်သွယ်ပတ်သက်မှုရှိ၊မရှိ လေ့လာဆန်းစစ်စရာ ဖြစ်နေပါသည်။ ၎င်းကျောင်းများ၌ လမ်းညွှန်သင်ကြားနေသည့်စနစ်၊ ပုံသဏ္ဌာန်များကို အတွင်းကျကျ လေ့လာဖော်ထုတ်စိစစ်ရန် လိုအပ်မည်ထင်ပါသည်။ ၎င်းကျောင်းများကနေပြီး နိုင်ငံရေး လှုပ်ရှားမှု၊ ဆူပူမှုများဖြစ်လာစေရန် မျိုးစေ့ချပေး

နေသလား စဉ်းစားဆင်ခြင်စရာ ဖြစ်လာပါသည်။

တာလီဘန်များ မြန်မာပြည်ထဲသို့ ဝင်ရောက်ပြီး သင်တန်းလာပေးသဖြင့် ဖော်ထုတ်ဖမ်းဆီးခဲ့ရသည့် ဖြစ်စဉ်များမှာလည်း စိုးရိမ်စရာကိစ္စများ ဖြစ်နေပါသည်။

(ဂ) ရိုဟင်ဂျာလှုပ်ရှားမှုအဆင့်ဆင့်

ဖဆပလခေတ်၌ ဘင်္ဂလီပါလီမန်အမတ် အဗ္ဗူဒူဂေါ်ဖားတို့က ရိုဟင်ဂျာလူမျိုးတုကို စတင်ကာ ပွဲထုတ်စဉ်ကစ၍ မြေပေါ် မြေအောက် ရိုဟင်ဂျာလှုပ်ရှားမှုများ တစ်စတစ်စတိုးမြင့်ပြီး အနုစိး၊ အကြမ်းစိး လုပ်ဆောင်လာခဲ့ကြသည်မှာ ယနေ့တိုင်ဖြစ်ပါသည်။

## R.I.F (Rohingya Independence Force)

ဖဆပလအစိုးရလက်ထက်က ၁၉၅၆ ခုနှစ်တွင် ထူထောင်လှုပ်ရှားခဲ့သော "ရိုဟင်ဂျာညီညွတ်ရေး၊ အစည်းအရုံး"၊ ၁၉၅၉ ခုနှစ်တွင် ဖွဲ့စည်းသော "ရိုဟင်ဂျာကျောင်းသားများ အစည်းအရုံး (ရန်ကုန်)"၊ "ရိုဟင်ဂျာ ဂျမီယတ် အလ်အူလ်မာအဖွဲ့ (ရန်ကုန်/မောင်တော)" တို့မှာ တော်လှန်ရေးကောင်စီအစိုးရ တက်လာပြီးနောက် ၁၉၆၄ တွင် ဖျက်သိမ်းခံခဲ့ရသည်။

မြေပေါ်ဘင်္ဂလီမွတ်ဆလင်အသင်းအဖွဲ့များသည် ရိုဟင်ဂျာအမည်ခံ အဖွဲ့အစည်းများကို ဖျက်သိမ်းခံရသောအခါ မြေအောက်လှုပ်ရှားမှုအသွင်သို့ ပြောင်းလဲလာခဲ့သည်။ ၁၉၆၄ ခုနှစ်၊ ဧပြီ ၂၆ ရက်တွင် မောင်တောမြို့၊ ကညင်တန်း မှ/အုပ် စူလတန်း (sultan)



က ဘင်္ဂလီလူငယ်များကို စည်းရုံးပြီး ရိုဟင်ဂျာလွတ်မြောက်ရေးတပ် (Rohinga Independence Force, R.I.F) ကို လျှို့ဝှက်စွာ ဖွဲ့စည်းခဲ့သည်။ အဖွဲ့၌ နူရူအစ္စလာမ်(Nurul Islam)၊ ဟာဘီဘူရာမန် (Habibur Rahman)၊ ဇော်ဖော (B.A Jarfar)၊ ဘမောင်၊ ကျော်မြင့်တို့ ပါကြသည်။ ရခိုင်မြောက်ပိုင်းကို ရိုဟင်ဂျာပြည်နယ် (Rohingya Autonomus State) ထူထောင်ရေးရည်ရွယ်ချက်ဖြစ်သည်။

မူဂျာဟစ်ခေါင်းဆောင် ဇော်ဖောဆာနီ (Jarfar Sani)၊ မူစတာဘိစ် (Mustabis) တို့မှာ ဆူလတန်တို့အဖွဲ့နှင့် ပူးပေါင်းလာကြသည်။ B.A ဇော်ဖော၊ အဏ္ဏဝါကာဆင်နှင့် R.I.F ခေါင်းဆောင် စူလတန်တို့သည် အရှေ့ပါကစ္စတန် (ယခုဘင်္ဂလားဒေ့ရှ်)၊ အနောက်ပါကစ္စတန် နိုင်ငံများသို့သွား၍ မွတ်ဆလင်နိုင်ငံများ၏ အကူအညီရရှိရေး ကြိုးပမ်းခဲ့ကြသည်။ စူလတန်က ၁၉၇၀ တွင် မြန်မာအစိုးရထံ အလင်းဝင်သည်။ R.I.F ကို B.A ဇော်ဖောက ဆက်ခံသည်။

## R.P.F (Rohingya Patriotic Front)

၁၉၇၃ တွင် R.P.F (Rohingya Patriotic Font) ရိုဟင်ဂျာမျိုးချစ်တပ်ဦးအဖြစ် ပြောင်းလဲဖွဲ့စည်းကြသည်။ B.A ဇော်ဖောမှာ ဥက္ကဋ္ဌတစ်ဦးဖြစ်ပြီး ရှုနာအာလီ (Shuna Ali)၊ ရှဘားရ်ဟုစိန် (Shabbir Hassain)၊ မော်လဝီမူဟာမတ်ကဘီရ် (Malvi Muharmat Kabir)၊ အဘူဖိဇ် (Abul Fiz)၊ ဒေလ်အာမတ် (Dalil Ahmet)၊ မူဟာမတ်ဟူစိန် (Muhammet Hussain) တို့ ပါဝင်သည်။ နောက်ထပ်နူရူအစ္စလာမ်၊ ပါမောက္ခ မူဟာမတ်ဇာကရီယာ၊ မူဟာမတ်ယူနစ်တို့ ပါဝင်

လာကြသည်။ စစ်သင်တန်းပေးပြီး လက်နက်တပ်ဆင်ပေးကြသည်။ ၁၉၇၈ ခုနှစ်တွင် R.P.F က ကြေညာစာတမ်းတစ်ခု ထုတ်ပြန်ခဲ့သည်။

- **တမန်တော်မူဟာမတ်၏ ကိုရမ်ကျမ်းမြတ်နှင့်အညီ လုပ်ရန်၊**
- **ကမ္ဘာ့မွတ်ဆလင်အဖွဲ့နှင့် ဆက်သွယ်လုပ်ရှားရန်၊**
- **အစိုးရကို ပုန်ကန်ရန်၊ (ထိုသို့ပုန်ကန်ခြင်းမှာ ထာဝရဘုရား၏အမိန့်တော်ကို နာခံခြင်းဖြစ်သည်။)**
- **အစ္စလာမ်၏ နစ်နာမှုအတွက် ဘာသာရေးစစ်ပွဲဆင်နွဲရန်**

**စသည်ဖြင့် အချက်ပေါင်း ၂၀ ပါဝင်သည်။**

## RSO နှင့် ARIF

RPF အဖွဲ့သည် ခေါင်းဆောင်အချင်းချင်း မညီမညွတ်ဖြစ်ပြီး ကွဲပြဲကြသည်။ ကမ္ဘာ့မွတ်ဆလင်ကွန်ဂရက်က အလှူငွေများ ထောက်ပံ့မှု ရရှိခဲ့ကြသော်လည်း RPF၏ ဒုတိယကွန်ဂရက်ကို ၁၉၈၀/၈၁(ဒီဇင်ဘာ/ ဇန်နဝါရီ)တွင် ကျင်းပရာ၌ ကွဲလွဲကြသည်။ ၁၉၈၂ ခုနှစ်တွင် နူရူအစ္စလာမ်၊ ဒေါက်တာမူဟာမတ်ယူနုစ်တို့က RSO (Rohingya Solidarity Organization) (ရိုဟင်ဂျာ ညီညွတ်ရေးအဖွဲ့)ကို ဖွဲ့ကြသည်။ ၁၉၈၆ တွင် RSO နှစ်ခြမ်းကွဲပြန်သည်။ နူရူအစ္စလာမ်တစ်ခြမ်းနှင့် ဒေါက်တာမူဟာမတ်ယူနုစ်တစ်ခြမ်းစီ ဖြစ်သည်။ ပါမောက္ခဇာကရိယာမှာ ဒေါက်တာယူနုစ် ဦးဆောင်သောအဖွဲ့တွင်ပါသည်။ ၁၉၉၅ တွင် ယူနုစ်နှင့် ဇာကရိယာ နှစ်ခြမ်းကွဲပြန်သည်။ ၁၉၈၆ တွင် နူရူအစ္စလာမ်၏ RSO တစ်ခြမ်းပဲ့က ရှာဘာ



ဟူစိန်ဦးဆောင်သော RPF အကွဲအပြဲနှင့်ပေါင်းပြီး ARIF (Arakan Rohingya Islamic Front)(အာရကန်ရိုဟင်ဂျာတပ်ဦး)ကို ဖွဲ့ကြသည်။ နူရူအစ္စလာမ်နှင့် ရှာဘာဟူစိန်တို့က ဥက္ကဋ္ဌ၊ ဒုဥက္ကဋ္ဌနေရာများကို သူတစ်လှည့်၊ ကိုယ်တစ်လှည့် ယူကြသည်။ ဒေါက်တာဝါကာဟူဒင် (Wakar) မှာ RSO ခေါင်းဆောင်တစ်ဦးဖြစ်သည်။

## ARNO(Arakan Rohingya National Organization)

၁၉၉၈ တွင် RSO တစ်ခြမ်းပဲ့ ယူနုစ်အဖွဲ့နှင့် ဇာကရိယာ တစ်ခြမ်းပဲ့အဖွဲ့တို့ ပူးပေါင်းပြီး ARNO အဖွဲ့ ဖွဲ့စည်းကြပြန်သည်။ ဒေါက်တာယူနုစ်က ဥက္ကဋ္ဌ၊ မော်လနာအစ္စလာမ်က ဒုဥက္ကဋ္ဌ၊ ပါမောက္ခဇာကရိယာက အတွင်းရေးမှူးဖြစ်သည်။

ရိုဟင်ဂျာအမည်ခံ သောင်းကျန်းသူလက်နက်ကိုင် ဘင်္ဂလီအဖွဲ့အစည်းများကို ဦးဆောင်နေသူများမှာ လက်တစ်ဆုပ်စာသော အစွန်းရောက် ပညာတတ်ဘင်္ဂလီတစ်စုမျှသာ ဖြစ်ပါသည်။ ၎င်းတို့သည် မြန်မာနိုင်ငံအစိုးရ၏ အုပ်ချုပ်ရေးယန္တရားနှင့် အချုပ်အခြာအာဏာပိုင်မှုကို အစဉ်တစိုက် နှောင့်ယှက်လာခဲ့ကြသည်။ ရခိုင်တိုင်းရင်းသားတစ်ရပ်လုံးကို အမျိုးပြုတ်နှိမ်နင်းပြီး ရခိုင်ပြည်နယ်ကို မွတ်ဆလင်ပြည်နယ်ဖြစ်စေရန် အမြဲတမ်းကြံရွယ်ကာ ဆူပူသောင်းကျန်း၊ မီးရှို့၊ လူသတ်၊ မုဒိမ်းကျင့်မှုများ အကြိမ်ကြိမ် ကျူးလွန်ခဲ့ကြသည်။

## RSO နှင့် ARNO လှုပ်ရှားမှုများ

RSO နှင့် ARNO စခန်း အနည်းဆုံး ၈ ခုမှာ ဘင်္ဂလားဒေ့ရှ် နိုင်ငံတွင်ရှိနေသည်။ ARNO အဖွဲ့ရုံးချုပ်မှာ ဘင်္ဂလားဒေ့ရှ်နိုင်ငံ၊ စစ်တကောင်း၊ ဂျူမဒါရပ်ကွက်၊ ဂျူမာခါလမ်း၊ အိမ်နံပါတ် ၃၀ ဖြစ်ကြောင်း သိရသည်။ ARNO စခန်းများအဖြစ် Zai La Suw-Ri, Daw Maw-Sri, Kya-Long-Taik များကို တွေ့ရသည်။ ARNO ၏ စစ်ရေးတာဝန်ခံမှာ ဆလမ်းအူလာဖြစ်သည်။ ARNO အဖွဲ့ဝင် ၅ ဦးမှာ တာလီဘန်ခေါင်းဆောင် အိုစမာဘင်လာဒင်ရှိစဉ်က အစည်းအဝေးပြုလုပ်ခဲ့ပြီးနောက် ၂၀၀၀ ပြည့်နှစ်၊ မေလတွင် အဆင့်မြင့် အရာရှိသင်တန်း တက်ခဲ့ကြသည်။ ၂၀၀၁ ခုနှစ်၊ ဩဂုတ်လတွင် ARNO ၁၉ ဦးသည် လစ်ဗျား၊ အာဖဂန်နစ္စတန် ပြောက်ကျားသင်တန်း၌ ဖောက်ခွဲရေး၊ လက်နက်ကြီးသင်တန်းများ တက်ခဲ့ကြသည်။ အာဖဂန်နစ္စတန်နိုင်ငံ၊ ခို့(စ်)မြို့ (Khost) တွင်ဖြစ်သည်။ ARNO သည် Republic of Islam Aceh (RIA)၊ အီဂျစ်ရှိ Jammah Jihad Mesir (JJM) အဖွဲ့တို့နှင့် ပူးပေါင်းဆက်သွယ်လျက်ရှိသည်။

အိုစမာဘင်လာဒင်ကိုယ်တိုင် အာရဗီဘာသာဖြင့် ဖြေထားသည့် ဗီဒီယိုခွေတွင် “မြန်မာနိုင်ငံမှ တရားတော်အလိုအရ တိုက်ခိုက်နေသူများ (RSO, ARNO...)” ဟု ထည့်သွင်းပြောဆိုမှုရှိခဲ့သည်။ RSO, ARNO စသည့် လက်နက်ကိုင်အဖွဲ့အစည်းများသည် တာလီဘန်၊ အယ်လ်ကိုင်ဒါ အစွန်းရောက်လက်နက်ကိုင်များ၏ ဩဇာခံများ ဖြစ်ကြသည်။ အမေရိကန်တက္ကသိုလ်တစ်ခု၌ “အယ်လ်ကိုင်ဒါ၏ အရှေ့တောင်အာရှ၌ အကြီးမားဆုံးအဖွဲ့ခွဲတစ်ခုသည် မြန်မာနိုင်ငံ



တွင် အခြေစိုက်သည်” ဟုပင် သတ်မှတ်နိုင်ကြောင်း CNN သတင်းအရ သိရသည်။

RSO အဖွဲ့သည် အာဖဂန်နစ္စတန်၊ ပါကိစ္စတန်၊ ဆော်ဒီအာရေဗီးယားနိုင်ငံများထဲမှ အကြမ်းဖက်အုပ်စုများနှင့် အဆက်အသွယ်ရှိကြသည်။ ဆော်ဒီအာရေဗီးယားအခြေစိုက် (Al-Haramain Islamic Foundation) အဖွဲ့က ထောက်ပံ့ဖွင့်လှစ်သည့် အစွန်းရောက် အစ္စလာမ်မစ်ကြီးစိုးရေးဝါဒ အခြေခံ (Wahhabi) လမ်းစဉ် သွတ်သွင်းပေးသည့် ကျောင်းများ၌ တက်ရောက်သင်ကြားကြသည်။ စစ်သင်တန်း၊ အသေခံဗုံးခွဲသည့်သင်တန်းများ သင်ကြားပေးသည်။ Al-Haramain အဖွဲ့သည် ၁၉၉၀ နှစ်ဆန်းပိုင်းကစ၍ စစ်တကောင်းနယ်ထဲမှ ရိုဟင်ဂျာများကို ထောက်ပံ့ခဲ့ကြသည်။ ဘူးသီးတောင်၊ မောင်တောနယ်များရှိ ဘာသာရေးကျောင်းများ၊ အာရဗီကျောင်းများကိုလည်း ထောက်ပံ့ခဲ့သည်။ RSO အဖွဲ့ကို အမြဲတမ်း ထောက်ပံ့ပေးနေသည်။

RSO အဖွဲ့အား အာဖဂန်၊ ပါကိစ္စတန်ရှိ Rahitall-Alam-I-Islamic (ရာဟီတယ် အလမ် အိုင် အစ္စလာမ်မစ်) အဖွဲ့ကလည်း ထောက်ပံ့ငွေများ ပေးလျက်ရှိသည်။ ဘင်္ဂလားဒေ့ရှ်နိုင်ငံရှိ Jamaat-e-Islamic (ဂျမတ် အီး အစ္စလာမ်မစ်)အဖွဲ့နှင့် Islamic Shhtatra Shibir (အစ္စလာမ်မစ် ချတ္တရာ ရှီဘာ) အကြမ်းဖက်ကျောင်းသားများ အဖွဲ့များကလည်း အကူအညီငွေများ ပေးနေသည်။

RSO အဖွဲ့သည် ပါကစ္စတန်နိုင်ငံ၊ ကတ်ရှမီးယားဒေသရှိ HUJI (Hara-Kat-UL-Jihad-Islamic) (ဆွန်နီမွတ်ဆလင်အစွန်းရောက် အဖွဲ့)၏ လွှမ်းမိုးမှုအောက်တွင်လည်း ရှိနေသည်။ ဘင်္ဂလား

ဒေ့ရှ်နိုင်ငံ၊ အုစီယာရှိ ဘင်္ဂလီရိုဟင်ဂျာ (RSO)စခန်းတစ်ခုမှာ (HUJI) ၏ ထိန်းချုပ်မှုအောက်တွင် ရှိနေသည်။ အယ်လ်ကိုင်ဒါ၊ တာလီဘန်တပ်ဖွဲ့ Wahabist and Deobandist(ဝါဟာဘီနှင့် ဒူရိုဘန်ဒီ) သင်တန်းများ၌ သင်ကြားပေးကြသည်။ ၎င်း HUJI အဖွဲ့ကို ယခု (Harkat - Ul- Mujahideem)ဟု ပြောင်းလဲထားပြီး ဘင်္ဂလားဒေ့ရှ်တွင် ရှိသည်။

RSO အဖွဲ့မှ ၈ ဦးသည် ၁၉၉၄ ခုနှစ်က လစ်ဗျား၌ အကြမ်းဖက်သင်တန်းတက်ခဲ့ကြသည်။ ကတ်ရှ်မီးယားရှိ Hizb-e-Islami(ဟဇ်ဗ် အီး အစ္စလာမ်မီ)အာဖဂန်စစ်ဝါဒီအဖွဲ့၏ လှုပ်ရှားမှုများ၌ ပါဝင်ကူညီခဲ့သည်။ ချိတ်ဆက်မှုရှိနေကြသည်။ ပါကိစ္စတန်ရှိ Jamiya-I-Islami အဖွဲ့၊ Ittehad-I-Islami အဖွဲ့တို့ကလည်း ထောက်ပံ့မှုရှိကြောင်း နိုင်ငံတကာ အကြမ်းဖက်ထောက်လှမ်းရေး မှတ်တမ်းများမှတစ်ဆင့် သိရသည်။

မြန်မာ့အရေး၊ ဒီမိုကရေစီအရေးလေ့လာသူ Berti LIntner က RSO ၁၀၀ ဦးသည် အာဖဂန်-ခို့စ် (Khost) မြို့၊ Hizb-e-Islami သင်တန်းကျောင်းများ၌ လေ့ကျင့်ရေးသင်တန်းတက်ခဲ့ကြောင်း၊ ၁၉၉၀ ခုနှစ်တွင် အင်အား ၅၀၀၀ ခန့် အလားတူ သင်တန်းများတက်ခဲ့ကြောင်း ဖော်ပြထားသည်။

၁၉၉၂ ခုနှစ်တွင်ဖွဲ့စည်းသော ဘင်္ဂလားဒေ့ရှ်နိုင်ငံ၏ အဓိက အကြမ်းဖက်လက်နက်ကိုင်အဖွဲ့ HUJI သည် တာလီဘန်များနှင့် အဆက်အသွယ်ရှိပြီး ပါကစ္စတန် အစ္စလာမ်မစ် လက်နက်ကိုင်အုပ်စုများနှင့် ချိတ်ဆက်ထားကြသည်။

၂၀၀၁ ခုနှစ်၊ စက်တင်ဘာတွင် ဝေါစထရိစင်တာ (အမေရိကန်) အရေးအခင်းပြီးနောက် အစွန်းရောက် စစ်သွေးကြွကွန်ယက်ကြီးမားလာသည်။ RSO တို့ အင်အားကြီးလာသည်။ အယ်လ်ကိုင်ဒါ အဖွဲ့၏ အစိတ်အပိုင်းတစ်ခုဖြစ်လာသည်။ ၂၀၀၁ ခုနှစ်၊ အောက်တိုဘာတွင် အာဖဂန်၌ အမေရိကန်စစ်စခန်းများ ဖွင့်ချိန်မှာ ဖမ်းမိသည့် တာလီဘန်၊ အယ်လ်ကိုင်ဒါစစ်သွေးကြွများကို စစ်ဆေးချက်အရ မြန်မာနိုင်ငံနှင့် ဆက်စပ်သူများ ပါဝင်နေကြောင်း သိလာရသည်။ မြန်မာနိုင်ငံသို့ မရောက်ဘူးသော ပါကစ္စတန်နိုင်ငံသား စစ်သွေးကြွများက မြန်မာနိုင်ငံသို့ ဝင်ရောက်တိုက်ပေးရန် ကြံစည်နေကြောင်း၊ မြန်မာနိုင်ငံအား ကိုရမ်ကျမ်းစာကိုလိုက်နာသော မွတ်ဆလင်အုပ်ချုပ်ရေးစနစ် (Sharia Law) မြန်မြန်သွတ်သွင်းရန် အစီအစဉ်များရှိကြောင်း သိရသည်။ (Berti Lintner မှတ်တမ်း)။ တာလီဘန်(အာဖဂန်)စစ်ပွဲပြီးသွားချိန်တွင် တာလီဘန်တို့ဘက်မှ တိုက်ပေးခဲ့သည့် မူဂျာဟစ်ဒင်များမှာ ဘင်္ဂလားဒေ့ရှ်နယ်စပ်၌ RSO အား လေ့ကျင့်သင်တန်းများပေးခဲ့ကြသည်။ Hizb-Ul-Mujahideen အဖွဲ့က လေ့ကျင့်ရေးဆရာများကို မြန်မာနိုင်ငံတွင်းရှိ မွတ်ဆလင်အစွန်းရောက်စစ်သွေးကြွများအား လေ့ကျင့်မှုပေးရန် စေလွှတ်ခဲ့ကြသည်။ RSO အဖွဲ့နှင့်အတူ အာရပ်၊ ပါကစ္စတန်၊ အာဖဂန်ရှိ စစ်သွေးကြွများ၊ မူဂျာဟစ်ဒင်အဖွဲ့များက မြန်မာနိုင်ငံအား ပါဝင်တိုက်ခိုက်ပေးမည်ဟု ကတိပြုထားရှိကြသည်။

အမေရိကန်က တာလီဘန်များကို ထိုးစစ်ဆင်ချိန်တွင် ပါကစ္စတန်ထောက်လှမ်းရေး (ISI)၊ ဘင်္ဂလားဒေ့ရှ် ထောက်လှမ်းရေး (DGFI)တို့က လက်ဝါးရိုက်ပြီး အာဖဂန်ရောက် နိုင်ငံတကာအကြမ်းဖက်စစ်သွေးကြွများကို ဘင်္ဂလားဒေ့ရှ်နိုင်ငံ၊ စစ်တကောင်းဒေသသို့

ပို့ပေးခဲ့ကြသည်။ ၂၀၀၁ ခုနှစ်၊ ဒီဇင်ဘာလတွင် အာဖဂန်တာလီဘန် စစ်သွေးကြွများ သင်္ဘောစင်းလုံးဖြင့် စစ်တကောင်းသို့ ပို့ခဲ့ပြီး RSO စခန်းများ၌ ခိုလှုံကာ လက်နက်ကိုင်ဖောက်ခွဲရေးသင်တန်းများ ပြုလုပ်ခဲ့ကြသည်။ ၂၀၀၅ ခုနှစ်တွင် ဘင်္ဂလားဒေ့ရှ်အစိုးရက စစ်တကောင်းရှိ အကြမ်းဖက်စခန်းများကို ဝင်ရောက်စီးနင်းရာ RSO တို့ ထိုင်းနယ်စပ်ကသွင်းလာသည့် လက်နက်များ၊ TNTC4 ဖောက်ခွဲရေးယမ်းများ၊ ဆာလဖျူရစ်အက်ဆစ်အပါအဝင် ဓာတုအရည်စည် ၁၃ ပုံးကို သိမ်းဆည်းရမိခဲ့သည်။

RSO အဖွဲ့သည် ဘင်္ဂလားဒေ့ရှ်ရှိ အစွန်းရောက်အကြမ်းဖက်အဖွဲ့များဖြစ်သည့် HuJi အဖွဲ့၊ Jammat-Ul-Mujahideen Bangladesh (JMB) အဖွဲ့တို့နှင့် အပြန်အလှန်အကူအညီပြုလျက်ရှိသည်။ JMB အဖွဲ့သည် ဗုံးလုပ်ကျွမ်းကျင်သည့် အစွန်းရောက်အဖွဲ့ဖြစ်ပြီး ၂၀၀၅ ခုနှစ်၊ ဩဂုတ်လတွင် ဘင်္ဂလားဒေ့ရှ်တစ်နိုင်ငံလုံးရှိ မြို့နယ် ၆၄ မြို့နယ်အနက် ၆၃ ခုမှာ ဗုံးအလုံးပေါင်း ၅၀၀ ကို တစ်နာရီအတွင်း အချိန်ကိုက်ခွဲနိုင်ခဲ့သည်။ RSO အဖွဲ့သည် နိုင်ငံတကာမှ လက်နက်ခဲယမ်းများ မှောင်ခိုသွင်းပြီး ဘင်္ဂလားအဖွဲ့၊ အိန္ဒိယအာသန်နယ်ရှိ အကြမ်းဖက်အဖွဲ့များကို လက်နက်ရောင်းနေသည့်အဖွဲ့ဖြစ်သည်။ (ဒေါက်တာမင်းဇော်ဦး၊ Voice / July 9-15)

RSO အဖွဲ့သည် ၁၉၉၄ ခုနှစ်မှာ မောင်တောဒေသအတွင်း ထိုးဖောက်စစ်ဆင်ရေးလုပ်ခဲ့သော်လည်း စောစီးစွာချေမှုန်းခံခဲ့ရဖူးသည်။

၂၀၀၂ ခုနှစ်၊ စက်တင်ဘာလက ဘင်္ဂလားဒေ့ရှ်နိုင်ငံတွင် ရိုက်ကူးခဲ့သည့် L Qaeda (အယ်လ်ကိုင်ဒါ) ဗီဒီယိုခွေတစ်ခု၌ အာဖဂန်



နစ္စတန်၌ RSO သင်တန်းပို့ချမှုများ ဖော်ပြထားပြီး၊ ဘင်္ဂလားဒေ့ရှ်ရှိ Ukhai မြို့အနီးရှိ စခန်း၊ တောင်းဘဇာ (Cox's Bazzar) အရှေ့တောင်ရှိ စခန်းစသည့် RSO စခန်းများပါရှိကြောင်း သိရသည်။ အာဖဂန်စစ်ပွဲအပြီး ဘင်္ဂလားဒေ့ရှ်သို့ ပြောင်းရွှေ့လာကြသည့် အာဖဂန်တာလီဘန် စစ်သွေးကြွများနှင့် RSO တို့ လှုပ်ရှားမှုမှတ်တမ်းဖြစ်သည်။ (ဘာတီးလစ်တနာ- Asia time ပါ ဆောင်းပါး)

၂၀၁၂ ခုနှစ်၊ ဖေဖော်ဝါရီ ၁၀ ရက်နေ့က ဘင်္ဂလားဒေ့ရှ်-မြန်မာနယ်စပ်ရှိ ဘင်ဒရာ(ရွာတော်)ခရိုင်၊ နတ်ကျောက်ဆိုးရီမြို့နယ်ရှိ RSO စခန်းကို ဘင်္ဂလားဒေ့ရှ်နယ်ခြားစောင့်တပ်က ဝင်ရောက်စီးနင်းရာ လက်နက်၊ ကျည်ဆန်၊ ခဲယမ်းများ ဖမ်းဆီးရမိကြောင်း သိရသည်။

ဘင်္ဂလားဒေ့ရှ်နိုင်ငံခြားရေးဝန်ကြီး ဒီပူးမိုနီကိုယ်တိုင် လွန်ခဲ့သည့် ဇွန်လ ၁၄ ရက်နေ့က "ဘင်္ဂလားဒေ့ရှ် အစ္စလာမ်မစ်ပါတီ (Jammat-e-Islami) က ရိုဟင်ဂျာများအား လက်နက်တပ်ဆင်ပေးခဲ့ကြောင်း၊ ချိတ်ဆက်မှုရှိကြောင်း၊ မြန်မာနိုင်ငံတွင် မငြိမ်မသက်မှုဖြစ်ပြီး လူမျိုးရေးအဓိကရုဏ်းဖြစ်လာစေရန် လှုံ့ဆော်ပေးခဲ့ကြောင်း၊ ရိုဟင်ဂျာများကြောင့် ဘင်္ဂလားဒေ့ရှ်မှာ လူမှုရေး၊ နိုင်ငံရေး၊ တရားဥပဒေစိုးမိုးရေးဆိုင်ရာပြဿနာများ ရင်ဆိုင်နေရကြောင်း" ပြောကြားသွားခဲ့သည်။

၂၀၁၂ ခုနှစ်၊ ဧပြီလက စစ်တကောင်းတောင်တန်းဒေသ၌ အစွန်းရောက်အကြမ်းဖက် ဘင်္ဂလီများက ဒေသခံသက်၊ မရမာ(ရခိုင်) လူမျိုးတို့၏ အိမ်များ၊ ဘုန်းကြီးကျောင်းများကို မီးရှို့ခဲ့ကြသည်။ အိမ်၊

ကျောင်း ၂၀၀ ကျော် မီးရှို့ခံခဲ့ကြရသည်။ ဒေသခံများ ခွေးပြေးဝက်ပြေး ပြေးခဲ့ကြရသည်။ "၂၀၁၂ ဖွန်လအရေးအခင်း" အတိုင်းပင်ဖြစ်သည်။ ဘင်္ဂလီ အကြမ်းဖက်သမားများက ၂၀၁၁ ခုနှစ်၊ ဇူလိုင်လ ၃၀ ရက်နေ့တွင်လည်း တောင်ပေါ်ဒေသနေ ဒေသခံအမျိုးသမီးငယ်တစ်ဦးအား မုဒိမ်းကျင့်သဖြင့် မိဘများ၊ ဆွေမျိုးများက လိုက်သွားရာ ဘင်္ဂလီများတိုက်ခိုက်သတ်ဖြတ်သဖြင့် အမျိုးသမီးငယ်အပါအဝင် သုံးလောင်းပြိုင် သေဆုံးခဲ့ရသည်။ မြန်မာနိုင်ငံ မောင်တော၊ ဘူးသီးတောင်မြို့နယ်များ၌ ဘင်္ဂလီကုလားဆိုးများ ပြုလုပ်နေကျ စရိုက်ဆိုးများအတိုင်းပင် ဖြစ်ပါသည်။ (Voice ဂျာနယ်)

ဘင်္ဂလားဒေ့ရှ်အစိုးရက မြန်မာနိုင်ငံက ရိုဟင်ဂျာဆိုသူများကို လက်မခံနိုင်ကြောင်း အတိအလင်းပြောနေပါသည်။ ၎င်းရိုဟင်ဂျာဆိုနေသူ ဘင်္ဂလီကုလားဆိုးများ၏ ဌာနေအိမ်မြေဖြစ်သည့် **ဘင်္ဂလားဒေ့ရှ်နိုင်ငံကတောင်မှ နိုင်ငံရေး၊ တရားဥပဒေစိုးမိုးရေးကို အကြောင်းပြပြီး ရိုဟင်ဂျာအမည်ခံ ဘင်္ဂလီများကို လက်မခံလိုလျှင် ဘာမျှဆွေမတော် မျိုးမစပ်သည့် မြန်မာနိုင်ငံက လက်ခံနိုင်စရာအကြောင်းမရှိချေ။** ဘင်္ဂလားဒေ့ရှ်သည် "သားဆိုးအမေ တပေပေ" လုပ်နေသည်။ ဘင်္ဂလားဒေ့ရှ်သည် သူ့သားသမီးများကို နိုင်ငံသားကတ်မပေးဘဲ ပတ်စ်ပို့သာ ပေးထားသည်။ ဘင်္ဂလားဒေ့ရှ်နိုင်ငံသားကတ်မည်သူ့တွင်မှ မရှိ။ "သွားချင်ရာသွား၊ လွတ်လပ်တယ်" ဆိုသည့်သဘောဆောင်နေသည်။ (ဘင်္ဂလားဒေ့ရှ်စစ်သံမှူး ဗိုလ်မှူးကြီးတစ်ဦးနှင့် အင်တာဗျူး၊ သံတော်ဆင့်ဂျာနယ်၊ ဇူလိုင်-၂၀၁၂)

ARNO ခေါင်းဆောင် နူရူအစ္စလမ်မှာ အင်္ဂလန်၌ နိုင်ငံရေးခိုလှုံခွင့်ယူပြီး နေထိုင်နေသည်။ ARNO သည် အင်အားပျက်နေပြီဖြစ်သည်။ ARNO, RSO စခန်းများသည် UNHCR ၏ ရိုဟင်ဂျာဒုက္ခသည်စခန်းများနှင့် မလှမ်းမကမ်းသောနေရာတွင်ရှိကြောင်း သိရသည်။ ဒုက္ခသည်စခန်းမှ ရိုဟင်ဂျာအမည်ခံသူ အများစုသည် RSO တို့နှင့် ဆက်နွှယ်မှုရှိပြီး အကြမ်းဖက်သင်တန်းများ တက်ရောက်ထားကြောင်းလည်း သိရသည်။ (Voice ဒေါက်တာမင်းဇော်ဦး)

ARNO အဖွဲ့သည် ရခိုင်ပြည်၏အမည် ARAKAN ကိုအသုံးချပြီး ဂျာနယ်ထုတ်ဝေလျက်ရှိကြသည်။ ၎င်းဂျာနယ်များ၌ ၎င်းတို့၏အကြမ်းဖက်လှုပ်ရှားမှုများ၊ ရိုဟင်ဂျာသမိုင်းလိမ်များ၊ မြန်မာနိုင်ငံအစိုးရအား ဝေဖန်ရှုတ်ချသည့် အရေးအသားများဖော်ပြကာ မြန်မာပြည်ထဲသို့ တရားမဝင်ခိုးသွင်းပြီး ဘင်္ဂလီများလက်ထဲသို့ ဖြန့်ဝေလျက်ရှိသည်။ ARAKAN ဂျာနယ်ကို အင်္ဂလိပ်ဘာသာဖြင့် ထုတ်ဝေခြင်းဖြစ်သည်။ ရိုဟင်ဂျာအမည်ခံဘင်္ဂလီများအား အကြမ်းဖက်လမ်းစဉ် စည်းရုံးသွတ်သွင်းနေခြင်း ဖြစ်သည်။

AFP သတင်းဌာန၏ ကြေညာချက်တစ်ရပ်တွင် ပါကစ္စတန်ရှိ တာလီဘန်အစွန်းရောက်အဖွဲ့ Tehreek-e-Taliban Pakistan (TTP) က "ရိုဟင်ဂျာအရေးအခင်းနှင့်ပတ်သက်၍ မြန်မာနိုင်ငံ၏လုပ်ဆောင်ချက်များအပေါ် လက်စားချေ တိုက်ခိုက်မှုများ ပြုလုပ်သွားမည် ဖြစ်ကြောင်း၊ ပါကစ္စတန်အစိုးရက မြန်မာနိုင်ငံနှင့် နှစ်နိုင်ငံ သံတမန်ဆက်ဆံရေး ဖြတ်တောက်ရန် တောင်းဆိုမှုများ၊ ခြိမ်းခြောက်မှုများ ပြုလုပ်ခဲ့ကြောင်း" သိရသည်။ TTF အဖွဲ့မှ Ehsanullah Ehsan က "ပြန်တုံ့ပြန်သွားမည်၊ မြန်မာနိုင်ငံအကျိုးစီးပွားမှန်သမျှ ဖျက်ဆီးသွား

မည်၊ မြန်မာနိုင်ငံအပေါ် လိုလားသူများကိုလည်း ဆန့်ကျင်တိုက်ခိုက်သွားမည်'' ဟု ဆိုပါသည်။ TTF အဖွဲ့မှာ အမေရိကန်နိုင်ငံ၊ နယူးယောက်မြို့ရှိ Times Square ကို ဗုံးခွဲရန် ကြံစည်မှု၌ ကြိုးကိုင်ခဲ့သည့် အဖွဲ့ဖြစ်သည်။

မြန်မာနိုင်ငံ၌ တာလီဘန် ၁၃ ဦးကို ဖမ်းဆီးမိခဲ့ကြောင်း ပြည်ထဲရေးဝန်ကြီး ဒုတိယဗိုလ်ချုပ်ကြီးကိုကို ကိုယ်တိုင် နေပြည်တော် သတင်းစာရှင်းလင်းပွဲ၌ ပြောဖူးသည်။

၂၀၁၂ ခုနှစ်၊ ဇွန်လအရေးအခင်းတွင် နိုင်ငံတကာတာလီဘန်၊ အယ်လ်ကိုင်ဒါ အကြမ်းဖက်အဖွဲ့များနှင့် ရိုဟင်ဂျာ အကြမ်းဖက်အဖွဲ့များ ချိတ်ဆက်ပူးပေါင်းပြီး မဟုတ်မမှန်သတင်းများဖြန့်ခြင်း၊ သွေးထိုးလှုံ့ဆော်ခြင်း၊ အကြမ်းဖက်မှုများတွင် ကြိုးကိုင်ပါဝင်ခြင်းများ ပြုလုပ်ခဲ့ကြသည်မှာ ထင်ရှားနေပါသည်။

**ဤမျှဆိုလျှင် ရိုဟင်ဂျာဆိုသည်မှာ မြန်မာနိုင်ငံ၏ လူမျိုးတစ်မျိုးမဟုတ်ဘဲ ခြေသလုံးအိမ်တိုင် အကြမ်းဖက်သမားများသာ ဖြစ်ကြောင်း ထင်ရှားလောက်ပါသည်။**

ဘင်္ဂလားဒေ့ရှ်နိုင်ငံ၊ Cox's Bazzar News ၌ မြန်မာနိုင်ငံတွင် တာလီဘန်နှစ်သိန်း၊ ရန်ကုန်မြို့တွင် နှစ်သောင်း၊ စက်ာပူ-မလေးရှားကြားရှိ ဒိုဟာမြို့တွင် သုံးသိန်းရှိကြောင်း ဖော်ပြထားပါသည်။

ရိုဟင်ဂျာအမည်ခံ ဘင်္ဂလီများသည် မြန်မာပြည်တွင်း၌ နေထိုင်သူဖြစ်စေ၊ ပြည်ပတွင်နေထိုင်သူဖြစ်စေ၊ လက်နက်ကိုင်သည် ဖြစ်စေ၊ မကိုင်သည်ဖြစ်စေ ၎င်းတို့သည် ရိုဟင်ဂျာဟူသော လူမျိုးသစ်တစ်မျိုးကို မြန်မာအစိုးရက တရားဝင် အသိအမှတ်ပြုရေးအတွက်



တရားမဝင်သော အောက်လမ်းနည်းမျိုးစုံကိုသုံးကာ ဝါဒဖြန့်၊ ကွန်ယက်ဖြန့် လှုပ်ရှားနေကြသည့် အကြမ်းဖက်သမားများသာ ဖြစ်ပါသည်။

အကြမ်းဖက်သမား ရိုဟင်ဂျာများသည် ရိုဟင်ဂျာလူမျိုး တရားဝင်ရေးကနေတစ်ဆင့် ရခိုင်ပြည်နယ်အား ရိုဟင်ဂျာပြည်နယ်ထူထောင်ရေးအထိ ကြိုးပမ်းနေကြခြင်း ဖြစ်သည်။ ၂၀၁၂ အရေးအခင်းသည် ဘာသာရေး၊ လူမျိုးရေးအဓိကရုဏ်းမဟုတ်ဘဲ ''ရိုဟင်ဂျာပြည်နယ်ထူထောင်ရေး''၊ ရခိုင်ပြည်နယ်ကို ''အစ္စလာမ်မစ်နိုင်ငံ''ဖြစ်ရေးအတွက် ဂျီဟတ်စစ်ပွဲ ဆင်နွှဲခြင်းသာဖြစ်ပါသည်။ မြန်မာနိုင်ငံအစိုးရက အရေးပေါ်အခြေအနေ ကြေညာပြီး ထိန်းသိမ်းခဲ့၍သာ ရိုဟင်ဂျာတို့ ကြိုးပမ်းမှု မအောင်မြင်ခဲ့ခြင်းဖြစ်ပါသည်။

၎င်းအကြမ်းဖက်သမားများ၏ ၂၀၁၂ ခုနှစ်၊ ဇွန်လအရေးအခင်း ဖြစ်ပေါ်ရန် ထုတ်ပြန်ဖြန့်ဝေခဲ့သည့် စာများ၊ အရေးအခင်းပြီးနောက် ရခိုင်ပြည်နယ်အား (Proclamation of Rohingya Independence State)၊ (Islamic Republic of Rahmanland) စသည်ဖြင့် ''ရိုဟင်ဂျာပြည်၊ အစ္စလာမ်မစ်ပြည်''အဖြစ် လွတ်လပ်ရေးကြေညာသည့် တရားမဝင်စာများ၊ မြေပုံများ၊ တံဆိပ်များက သက်သေ အထင်အရှားပင်ဖြစ်ပါသည်။ (၎င်းစာအထောက်အထားများကို ပူးတွဲတင်ပြထားပါသည်။)

၂၀၁၂ ခုနှစ်၊ ဩဂုတ်လ ၈ ရက်တွင် ရခိုင်ပြည်နယ်ကို ''အစ္စလမ်မစ်နိုင်ငံ'' ထူထောင်ရန် ရိုဟင်ဂျာအမည်ခံ ဘင်္ဂလီအကြမ်းဖက်အဖွဲ့များ၊ ဘင်္ဂလားဒေ့ရှ်ရှိအကြမ်းဖက်အဖွဲ့များ ၁၁ ဖွဲ့ ပူးပေါင်းပြီး လှုပ်ရှားနေကြကြောင်း၊ ဘန်ဒရော်ဘင်ဆိုင်အလယ် ခို့(စ်)မြို့၌

အကြမ်းဖက်အဖွဲ့စခန်း တည်ဆောက်နေကြောင်း၊ JMB က ကြိုးကိုင်လုပ်ဆောင်နေကြောင်း (Cox's Bazzar News - ရဲထောက်လှမ်းရေးအစီရင်ခံစာအရ) သိရပါသည်။

ရခိုင်ပဋိပက္ခဖြစ်ပွားပြီးနောက် ဘင်္ဂလားဒေ့ရှ်လုံခြုံရေးတပ်က ဖလောင်းချိတ် (Cox's Bazzar)မြို့မှ ရိုဟင်ဂျာအမည်ခံ ဘင်္ဂလီအကြမ်းဖက် ၁၃ ဦး ဖမ်းမိခဲ့ကြောင်း၊ ထိုအထဲမှတစ်ဦးမှာ JNB ခေါင်းဆောင် ဆာလ်မန် (ခ) ရှုဟူးအာမီ (ခ) တာလ်ဟာ ဖြစ်သည်။ ၎င်းတို့ထံမှ သိမ်းဆည်းရမိသည့် အထောက်အထားများအရ ဂျီဟတ်ဒီစာအုပ်ထုတ်ဝေရန်၊ လက်နက်ကြီး/ငယ် သင်တန်းများပေးရန်၊ ဟိန္ဒီ၊ အူရဒူစာပေနှင့် စကားများသင်ပြီး အာဖဂန်နစ္စတန်သို့သွားကာ အကြမ်းဖက်သင်တန်းများ တက်ရောက်ရန်၊ မြန်မာနိုင်ငံ၌ အစ္စလာမ်မစ်နိုင်ငံထူထောင်ရန် စသည့်အချက်များ တွေ့ရကြောင်း သိရပါသည်။

(ဃ) ၂၀၁၂ ခုနှစ်၊ ဇွန်လ အရေးအခင်း

၂၀၁၂ ခုနှစ်၊ ဇွန်လအရေးအခင်းတွင် မေ ၂၈ ရက်နေ့က ရမ်းဗြဲ၊ ကျောက်နီမော်၌ မသီတာထွေးအား ဘင်္ဂလီကုလားဆိုး ၃ ယောက်က မုဒိမ်းကျင့်၊ သတ်ဖြတ်သည့်ပြဿနာသည် အစဖြစ်သည်။ ထိုကိစ္စပေါ်ပေါက်ပြီးနောက် ဘင်္ဂလီမွတ်ဆလင် ၁၀ဦးအား တောင်ကုတ်မြို့၌ သတ်ဖြတ်မှုဆက်လက်ဖြစ်ခဲ့သည်။ ဤကိစ္စနှစ်ရပ်မှာ ပြစ်မှုကျူးလွန်သည့် ဖြစ်စဉ်သက်သက်သာဖြစ်ပြီး လူမျိုးရေးအဓိကရုဏ်း၊ ဘာသာရေးအဓိကရုဏ်းအသွင်ကိုဆောင်ကာ လက္ခဏာတစ်စုံတစ်ရာမရှိခဲ့ပါ။ သက်ဆိုင်ရာပြည်နယ်အစိုးရအဖွဲ့နှင့် ဒေသအာဏာပိုင်များက



ထိုအခင်းဖြစ်ကိစ္စနှစ်ရပ်ကို အချိန်နှင့်တစ်ပြေးညီ ဂရုတစိုက် အရေးယူဆောင်ရွက်နေစဉ်မှာပင် ဇွန်လ ၈ ရက်နေ့၊ နေ့အချိန်တွင် မောင်တောမြို့၌ ကြီးမားကျယ်ပြန့်သည့် ထိတ်လန့်ဖွယ် ဘင်္ဂလီသောင်းကျန်းမှုအရေးအခင်းကြီး စတင်ခဲ့ခြင်းဖြစ်ပါသည်။ ရိုဟင်ဂျာအမည်ခံ ဘင်္ဂလီကုလားများသည် ငြိမ်းချမ်းစွာနေထိုင်ကြသော တိုင်းရင်းသားဗုဒ္ဓဘာသာရခိုင်၊ ဗမာ၊ ဒိုင်းနက်၊ သက်၊ မြို စသည့် လူနည်းစုများနေထိုင်ရာရပ်ကွက်၊ ကျေးရွာများကို တစ်ချိန်တည်း တစ်ပြိုင်တည်းမှာ မီးရှို့ကြသည်။ ဘုန်းကြီးကျောင်းများကို မီးရှို့ကြသည်။ ပိဋကတ်ကျမ်းဂန်စာပေများ၊ ဘုရားပုထိုးစေတီများကို မီးရှို့ဖျက်ဆီးခဲ့ကြသည်။ ရဟန်းသံဃာတော်များနှင့် တိုင်းရင်းသား လူမျိုးပေါင်းစုံတို့ကို နွားလည်လှီးသလို ရက်ရက်စက်စက် လည်လှီးသတ်ဖြတ်ခဲ့ကြသည်။ မိမိတို့အားလာရောက်ပြီး စာပေသင်ကြားပြသပေးနေသည့် ဆရာ၊ ဆရာမများကိုတပည့်များက လူမဆန်စွာ ဝိုင်းသတ်ခဲ့ကြသည်။

ရခိုင်လူမျိုးများမှာ ထေရဝါဒဗုဒ္ဓဘာသာ ကိုးကွယ်သူများပီပီသတ္တဝါများကို ညှဉ်းဆဲသတ်ဖြတ်ခြင်းအား ကြောက်ရွံ့ရှောင်ကြဉ်ကြသည်။ သရဏဂုံသုံးပါးနှင့် ငါးပါးသီလကို ဆောက်တည်ကြသူများဖြစ်၍ သူတစ်ပါးအသက်ကို မသတ်၊ သူတစ်ပါးသားသမီး၊ သားမယားတို့အား ပြစ်မှုကျူးလွန်မှုကိုလည်း ရှောင်ကြသည်။ ရခိုင်လူမျိုးများသည် မွတ်ဆလင်ကုလားများကို ရန်လိုမုန်းတီးပြီး စတင်ရန်ပြုခြင်း၊ သတ်ဖြတ်ခြင်း၊ မုဒိမ်းပြုကျင့်ခြင်း စသည်တို့ကို မည်သည့်အခါကမျှမပြုခဲ့ကြပါ။ ကုလားမများကို ရခိုင်သားက မုဒိမ်းကျင့်သည့်အမှုတစ်ကြိမ်တစ်ခါမျှ မပေါ်ပေါက်ဘူးဘဲ ရခိုင်သူများကိုသာ ဘင်္ဂလီ

ကုလားများက မုဒိမ်းကျင့်ခြင်း၊ သတ်ဖြတ်ခြင်းများသာ မကြာခဏ ရှိခဲ့ကြပါသည်။ အဓိကရုဏ်းပဋိပက္ခကို ရခိုင်၊ ဗမာ စသည့် တိုင်းရင်းသားများက ဖန်တီးခြင်းမဟုတ်ဘဲ ဘင်္ဂလီများကသာ စတင်ရန်ရှာ တိုက်ခိုက်ခြင်း၊ မီးရှို့ဖျက်ဆီးခြင်း ဖြစ်သည်။ မောင်တော၊ ဘူးသီးတောင်၊ ရသေ့တောင် စသည့်မြို့နယ်များမှ ရခိုင်တိုင်းရင်းသားများစွာ တို့မှာ မိမိပိုင်မြေတွင် မိမိတို့ အေးချမ်းစွာမနေနိုင်ကြဘဲ ကျီးလန့်စာ စားဘဝဖြင့် ကစဉ့်ကလျား ထွက်ပြေးခဲ့ကြရသည်။ အနိုင်အထက် ပြုကျင့်မှု ခံခဲ့ကြရသည်။

အမှန်မှာ ဇွန်လ ၈ ရက်နေ့တွင် မောင်တော၌ အရေးအခင်း စတင်ဖြစ်ပွားသော်လည်း ဇွန်လ ၆ ရက်နေ့ ညနေကပင် စစ်တွေ မြို့တော်၊ နာဇီ(စက်ရုံစု)ရပ်ကွက်၊ ဘုမေရပ်ကွက်၊ သဲချောင်းရပ်ကွက် များမှ ဘင်္ဂလီများသည် အစုလိုက်၊ အဖွဲ့လိုက် လမ်းပေါ်ထွက်ပြီး ရခိုင်များအားအကြမ်းဖက်ရန် ကြံရွယ်ခဲ့ကြပြီးဖြစ်သည်။ ရဲက အချိန်မီ သတင်းရရှိသဖြင့် လုံခြုံရေးယူ ထိန်းသိမ်းနိုင်ခဲ့ခြင်းဖြစ်သည်။ ဇွန် ၈ ရက်နေ့တွင် မောင်တောတိုက်ခိုက်မှုဖြစ်သည်နှင့် ဇွန် ၉ ရက်နေ့ ညတွင် ဘုမေ၊ သဲချောင်းရွာများမှ ဘင်္ဂလီကုလားများက မင်းဂံ ရပ်ကွက်ကို စတင်တိုက်ခိုက်ကြတော့သည်။ ရခိုင်နေအိမ်များကို မီးရှို့ ကြသည့်အပြင် ရခိုင်များနှင့်ဆက်စပ်သည့်နေရာများမှ မိမိတို့ နေအိမ် ငယ်များကို မိမိတို့ကိုယ်တိုင် မီးရှို့ပြီး ရခိုင်နေအိမ်အများအပြား မီး လောင်စေရန် ကြံစည်လုပ်ဆောင်ခဲ့ကြသည်။ စစ်တွေမြို့တော်ကြီး မီးဟုန်းဟုန်းတောက်ခဲ့ရသည်။ အရေးအခင်းမီးမှာ တခြားရသေ့တောင်၊ ပေါက်တော၊ ကျောက်တော် စသည့်မြို့နယ်များသို့လည်း ကူးစက်



လောင်တော့သည်။ လူသတ်ပွဲကြီးဖြစ်ခဲ့ရသည်။

တောင်ကုတ်မြို့၌ ဘင်္ဂလီ ၁၀ ဦးအသတ်ခံရပြီး ရက်ပိုင်း အတွင်းမှာ ကြို၍ ရခိုင်ပြည်နယ်အနှံ့ ဘင်္ဂလီကုလားများလက်ထဲသို့ အကြမ်းဖက်တာလီဘန်အဖွဲ့ ကြေညာချက်တစ်စောင် ဖြန့်ဝေခဲ့ကြောင်း တွေ့ရသည်။

ဤဇွန်လအရေးအခင်းသည် ရမ်းဗြဲ၊ တောင်ကုတ်မြို့များ၌ လတ်တလောပေါ်ပေါက်ခဲ့သည့် အမှုအခင်းများကြောင့်မဟုတ်ဘဲ ထိုကိစ္စများမှာ ဘင်္ဂလီများအကြမ်းဖက်သောင်းကျန်းမှု ကန့်လန့်ကာ ကို ဖွင့်လှစ်နိုင်ရန် စေ့ဆော်မှုတစ်ရပ်သာ ဖြစ်သည်။ ဤအရေးအခင်း ပဋိပက္ခ၏အဓိကအခြေခံအကြောင်းရင်းမှာ ရခိုင်ပြည်နယ်သို့ တစ်ဖက် နိုင်ငံမှ တံခါးမရှိ ဓားမရှိ တရားမဝင် ခိုးဝင်နေထိုင်ကြပြီး ရိုဟင်ဂျာ အမည်ခံကာ ခေတ်အဆက်ဆက် သောင်းကျန်းတိုက်ခိုက်လာခဲ့ကြ သည့်၊ နိုင်ငံတော်ကို အမြဲတမ်းဆန့်ကျင်ကြသည့် ဘင်္ဂလီများ၏ ရန်စ ကျူးကျော်တိုက်ခိုက်မှုများကြောင့် ဖြစ်ပွားရခြင်းသာ ဖြစ်ပါသည်။ ရခိုင်ပြည်နယ်ကို "ရိုဟင်ဂျာပြည်နယ်" ထူထောင်ရန်အတွက် သောင်း ကျန်းတိုက်ခိုက်ကြခြင်းသာ ဖြစ်သည်။

ဤပြဿနာသည် ကမ္ဘာ့ပြဿနာ၊ နိုင်ငံတကာပြဿနာ လည်း မဟုတ်ဘဲ ရခိုင်ပြည်နယ်ရှိ တိုင်းရင်းသားများ ခါးသီးတုန် လှုပ်စွာ ခံစားနေကြရသည့် ပြဿနာသာဖြစ်ပါသည်။ လူ့အခွင့်အရေး ပြဿနာ လုံးဝမဟုတ်ပါ။ လူ့အခွင့်အရေးကို အကြမ်းဖက်တောင်းဆို ၍လည်း ရမည်မဟုတ်ပါ။ တစ်နည်းအားဖြင့် ဤပြဿနာသည် ကိုလိုနီဝါဒမှ ဆင်းသက်လာသည့် လူဝင်မှုစနစ်၏ ဆိုးမွေကို ဌာန

တိုင်းရင်းသားများ အကြိမ်ကြိမ်၊ အလီလီ ခါးစည်းခံလာရသည့် ပြဿနာဖြစ်ပါသည်။ ရခိုင်ပြည်နယ်သည် ခေတ်အဆက်ဆက်၌ တရားမဝင် ဝင်ရောက်လာသည့် ဘင်္ဂလီအမှိုက်ပုံကြီး ဖြစ်ခဲ့ရသည်။ လူလိုင်းဖြင့် ရခိုင်ပြည်နယ်ကို လွှမ်းခြုံသိမ်းပိုက်ရန် ကြံစည်မှုပင် ဖြစ်ပါသည်။ ရိုဟင်ဂျာအမည်ခံ ဘင်္ဂလီအကြမ်းဖက်သမားများသည် ရခိုင်ပြည်နယ်မြို့တော်၊ စစ်တွေမြို့၌ပင် နေ့အချိန်၌ ရခိုင်နေအိမ်များ၊ စာသင်ကျောင်းများ၊ ဘုန်းကြီးကျောင်းများကို အတင့်ရဲစွာ မီးရှို့ခြင်း၊ တိုက်ခိုက်ခြင်းများ ပြုလုပ်ဝံ့သည်မှာ ၎င်းတို့၏နောက်ကျော၌ RSO, ARNO နှင့် ပြည်ပမွတ်ဆလင်အကြမ်းဖက် တာလီဘန်၊ အယ်လ်ကိုင်ဒါ အဖွဲ့များက ပံ့ပိုးမှု၊ ဆက်သွယ်မှုရှိနေခြင်း၊ OIC (57) နိုင်ငံ၏ နောက်ခံအားကို ရယူထားခြင်း၊ နိုင်ငံတကာ NGO အဖွဲ့များ၏ သွေးထိုးလှုံ့ဆော်မှုများ၊ ပယောဂများ မျိုးစုံပါဝင်နေခြင်းကြောင့် ဖြစ်သည်။

အစိုးရက ထုတ်ပြန်သော တရားဝင်စာရင်းဇယားများအရ ဩဂုတ်လ ၈ ရက်နေ့ထိ သေဆုံးသူစာရင်းမှာ ရခိုင်တိုင်းရင်းသား ၃၁ ဦး၊ ဘင်္ဂလီ ၅၆ ဦး၊ ပေါင်း ၈၇ ဦး၊ ထိခိုက်ဒဏ်ရာရသူ ရခိုင်တိုင်းရင်းသား ၅၀ ဦးနှင့် ဘင်္ဂလီ ၇၀ ဦး၊ ပေါင်း ၁၂၀ ဦးရှိသည်။ မီးလောင်ဆုံးရှုံးမှုမှာ ရခိုင်တိုင်းရင်းသားပိုင် အိမ် ၁၁၈၀ လုံး၊ ဘင်္ဂလီပိုင်အိမ် ၄၁၈၈ လုံး၊ စုစုပေါင်း ၅၃၃၈ လုံး၊ ဗလီ ၁၆ လုံး၊ ဘုန်းကြီးကျောင်း ၁၄ ကျောင်းနှင့် စာသင်ကျောင်း ၃ ကျောင်း ဖြစ်သည်။

(၈·၆·၂၀၁၂) နေ့ ည ၉ နာရီအချိန်တွင် မောင်တော၊ ဘူးသီးတောင်မြို့နယ်များ၌ ပြစ်မှုကျင့်ထုံးဥပဒေပုဒ်မ-၁၄၄ ထုတ်ပြန်ခဲ့ရသည်။ (၁၀·၆·၂၀၁၂) နေ့ ညနေ ၃ နာရီတွင် စစ်တွေမြို့နယ်၊



သံတွဲမြို့နယ်၊ ကျောက်ဖြူမြို့နယ်နှင့် ရမ်းဗြဲမြို့နယ်များတွင် ပြစ်မှုကျင့်ထုံးပုဒ်မ-၁၄၄ ထပ်မံထုတ်ပြန်ခဲ့ရသည်။ (၁၀·၆·၂၀၁၂) နေ့တွင် ရခိုင်ပြည်နယ် တည်ငြိမ်ရေးအတွက် နိုင်ငံတော်ဖွဲ့စည်းတည်ဆောက်ပုံ အခြေခံဥပဒေပုဒ်မ-၄၁၂၊ ပုဒ်မခွဲ(က)အရ ဥပဒေကဲ့သို့ အာဏာတည်သော အမိန့်အမှတ်(၁/၂၀၁၂)ကို ထုတ်ပြန်ပြီး အရေးပေါ်အခြေအနေ ကြေညာထိန်းသိမ်းခဲ့ရသည်။ ထိုအမိန့်ကို (၁၆·၇·၂၀၁၂) နေ့ ပြည်ထောင်စုလွှတ်တော်က အတည်ပြုပေးခဲ့သည်။

အစိုးရ၏ တရားဝင်စာရင်းအရ ဒုက္ခသည်စခန်း ၅၃ ခု ဖွင့်လှစ်ပြီး ဆောင်ရွက်ခဲ့ရကြောင်း တွေ့ရသည်။ ရခိုင်တိုင်းရင်းသား ၆၀၀၀ ခန့်မှာ မိမိမြေ၌ သဘာဝဘေးအန္တရာယ်ကြောင့်မဟုတ်ဘဲ ရိုဟင်ဂျာအမည်ခံ ကုလားဆိုးအန္တရာယ်ကြောင့် ဒုက္ခသည်ဖြစ်ခဲ့ကြရသည်။ ယခင်ကာလများက မောင်တော၊ ရသေ့တောင်၊ ဘူးသီးတောင်မြို့နယ်များ၌ နေထိုင်ကြသည့် ရခိုင်တိုင်းရင်းသားများမှာ ဘင်္ဂလီအကြမ်းဖက်ရန်ကြောင့် အလီလီ အခါခါ ထွက်ပြေးလာခဲ့ကြရဖူးပြီ။ စစ်တွေ၊ ပုဏ္ဏားကျွန်း၊ ကျောက်တော်၊ မြောက်ဦး၊ မင်းပြား၊ ပေါက်တော၊ မြေပုံမြို့များ၌ ပြေးရင်းလွှားရင်း ပြောင်းရွှေ့အခြေချနေထိုင်လာခဲ့ကြသည်။ မူလနေရာရွာများ၊ လယ်များ၊ ဥယျာဉ်ခြံမြေများ လက်လွှတ်ဆုံးရှုံးခဲ့ရကာ ထိုအရာများအားလုံး ကျူးကျော်သူကုလားများလက်ထဲ ရောက်ကြရသည်မှာ အလွန်ပင် ရင်နာစရာကောင်းသည့် ဖြစ်ရပ်များပင်ဖြစ်သည်။ ပြည်ထောင်စုနှင့် ပြည်နယ်အစိုးရအဖွဲ့တို့က တရားဥပဒေစိုးမိုးရေး၊ နယ်မြေငြိမ်းချမ်းရေး ဆောင်ရွက်နေချိန် ပြည်ပနိုင်ငံများ၊ သတင်းဌာနကြီးများ၊ အင်တာနက်မီဒီယာများ၊ RSO

အပါအဝင် အကြမ်းဖက်အဖွဲ့အစည်းများက ဝင်ရောက်စွက်ဖက်မှု၊ သွေးထိုးလှုံ့ဆော်မှု၊ ခြိမ်းခြောက်မှုအမျိုးမျိုးကို ဆက်တိုက်ပြုလုပ်လျက်ရှိနေကြသည်။ နိုင်ငံတော်အလံကို မီးရှို့ခြင်း၊ နိုင်ငံတော်အကြီးအကဲပုံများကို ညစ်ညမ်းစွာပြုမူဆောင်ရွက်ခြင်းများ ပြုလုပ်ကြသည်။ နိုင်ငံတော်၏ အချုပ်အခြာအာဏာကို ထိပါးစော်ကားသည့် လွတ်လပ်ရေးကြေညာစာများအထိ ထုတ်ပြန်လာကြသည်။ ရခိုင်ပြည်နယ်ကို (Proclamation of Rohingya Independence State) ဟူ၍ ကြေညာကာ သမ္မတအဖြစ် Amir LLham Kamil နှင့် ဒုသမ္မတအဖြစ် Farid L Shyaid ဟု ဖော်ပြထားသည်။ (ပူးတွဲဖော်ပြထားပါသည်။) "အစ္စလာမ်စော်ဘွားများသမ္မတနိုင်ငံ" ဟု ဆိုလိုခြင်းဖြစ်ပါသည်။

ရခိုင်ပြည်နယ်အရေးအခင်းကို စုံစမ်းစစ်ဆေးရန် နိုင်ငံတော်က (၁၇.၈.၂၀၁၂)နေ့တွင် စုံစမ်းစစ်ဆေးရေးကော်မရှင်ကို ၂၇ ဦးဖြင့် ဖွဲ့စည်းတာဝန်ပေးခဲ့သည်။ ၄င်းအဖွဲ့သည် ရခိုင်ပြည်နယ်သို့ စက်တင်ဘာလတုန်းက ပဏာမစစ်ဆေးရေးအနေဖြင့် လာရောက်စစ်ဆေးခဲ့ကြသည်။ ၄င်းအဖွဲ့ လာရောက်စစ်ဆေးနေစဉ် ကာလအတွင်းပင် (၂၄.၈.၂၀၁၂)နေ့က ဘူးသီးတောင်မြို့၊ တောင်ခြေရွာနေ ထွန်းရွှေလှိုင် (၄၀ နှစ်)သည် ၄င်းပိုင် ဒု-ကင်းချောင်းရွာအနီးရှိ ဥယျာဉ်ခြံသို့သွားစဉ် ဘင်္ဂလီကုလားဆိုးများ ဝိုင်းသတ်၍သေသည်။ နောက်ထပ် အမျိုးသမီးငယ်တစ်ဦးမှာလည်း ဘူးသီးတောင်နယ်၌ပင် ကုလားများလိုက်ခုတ်၍ဒဏ်ရာရသည်။ စက်တင်ဘာ ၁၁ ရက်နေ့တွင် ကျောက်တော်မြို့နယ်၊ သရက်အုပ်ရွာသား ဦးကျော်မောင်ချေမှာ ကျောက်တော်မှ မိမိရွာသို့ အပြန်၌ ဘင်္ဂလီကုလားများ ဝိုင်းခုတ်၍ သေသည်။ စက်တင်ဘာ



၁၄ ရက်နေ့က မောင်တောမြို့နယ်၊ ကံသာ(ရွာသာယာ)ရွာနေ ရခိုင်လယ်သမားဇနီးမောင်နှံ လယ်တဲ၌အိပ်နေသည်ကို ဘင်္ဂလီမွတ်ဆလင် ၂၀ဦးခန့် လာဝိုင်း၍ ခင်ပွန်းဖြစ်သူဦးအောင်လှဖြူက ခုံရာ သေနတ်ဖြင့် ပစ်ခတ်ခံရ၍ ဒဏ်ရာအပြင်းအထန်ရရှိသဖြင့် ဘူးသီးတောင်ဆေးရုံအထိ တက်ရောက်ကုသခံနေရသည်။

၂၈.၉.၂၀၁၂ နေ့ (သောကြာနေ့)တွင် စစ်တွေမြို့၊ အောင်မင်္ဂလာ(အင်ဘာလာ) ဘင်္ဂလီရပ်ကွက်၌ ရေခဲချောင်းရောင်းသည့် ရခိုင်ကလေးငယ်တစ်ဦး အသတ်ခံရသည်ဆိုသည့်သတင်းကြောင့် ရန်ရင်းဆန်ခတ်မှု ဖြစ်ပွားခဲ့ပြီး နောက်တစ်နေ့ (၂၉.၉.၂၀၁၂ စနေနေ့) ညနှင့် (၃၀.၉.၂၀၁၂ တနင်္ဂနွေ)နေ့များတွင် ဘင်္ဂလားဒေ့ရှ်နိုင်ငံနေ ရခိုင်တိုင်းရင်းသားများမှာ ဘင်္ဂလီအစွန်းရောက် အကြမ်းဖက်သမားများ၏ တိုက်ခိုက်သတ်ဖြတ်မှု၊ ဘုန်းကြီးကျောင်းများ၊ ဘုရားပုထိုးစေတီများ၊ သိမ်များ၊ နေအိမ်များကို မီးရှို့ဖျက်ဆီးမှုများကို ခံခဲ့ကြရသည်။

အကြမ်းဖက်မှု ၂၄ နာရီအတွင်း ဗုဒ္ဓဘာသာဘုန်းကြီးကျောင်း ၂၄ ကျောင်း၊ သိမ် ၂ ဆောင်၊ နေအိမ် ၁၀၀ ကျော် မီးရှို့ခံရသည်။ အိုခီးယား (UKhia)မြို့နယ်၊ စေတီတောင်ရွာ(ဇာတိပူရ)၌ ဘုန်းကြီးတစ်ပါး သတ်ဖြတ်ခံရသည်။ သာမဏေများ အသတ်ခံရသည်။ လုံခြုံရေးတပ်ဖွဲ့များနှင့် သောင်းကျန်းသူများ အပြန်အလှန်ပစ်ခတ်မှုကြောင့် ဒေသခံများ၊ သောင်းကျန်းသူများနှင့် လုံခြုံရေးဝန်ထမ်း စုစုပေါင်း ၂၀ကျော် သေဆုံးပြီး ၁၀၀ ကျော် ဒဏ်ရာရရှိကြောင်း သိရသည်။ ဖျက်ဆီးမီးရှို့ခံရသော ဘုန်းကြီးကျောင်းများမှာ ပန်းဝါမြို့နယ်၌ ၁၂ ကျောင်း၊ သမုဒ်သိမ် ၂ ဆောင်၊ လျောင်းတော်မူဘုရားတစ်ဆူ၊

အိုခီးယားမြို့နယ်တွင် ဘုန်းကြီးကျောင်း ၄ ကျောင်း၊ နတ်ချောင်းဆရီမြို့နယ်၊ တက်ခ်နက်(Taknaf)မြို့နယ်၊ ဝါးခတ်ချောင်းဒေသ၊ ပူရိစာဒေသ၊ စစ်တကောင်းခရိုင်၊ ပိုတီယာတွင် မရမာဗုဒ္ဓဘာသာဘုန်းကြီးကျောင်း ၄ ကျောင်း၊ ဟိန္ဒူအဆောက်အဦများ မီးရှို့ဖျက်ဆီးခံခဲ့ရသည်။ တန်ဖိုးမဖြတ်နိုင်သည့် နှစ်ပေါင်း ၃၀၀ကျော်ကြာ ရှေးဟောင်းဘုန်းကြီးကျောင်းနှင့် ဘုရားစေတီပုထိုးများ ဖျက်ဆီးခံခဲ့ရသည်။ ပန်းဝါမြို့ကို တနင်္ဂနွေနေ့ ည ၁၂နာရီကျော်အချိန်တွင် မီးရှို့တိုက်ခိုက်သတ်ဖြတ်ခဲ့ကြခြင်းဖြစ်သည်။

တိုက်ခိုက်မှု၌ ရိုဟင်ဂျာအမည်ခံ အစွန်းရောက်ဘင်္ဂလီအကြမ်းဖက်အဖွဲ့များဖြစ်သည့် RSO, ARNO အဖွဲ့များနှင့် မကြာခင်ကဖွဲ့ထားသည့် ARU(Arakan Rohingya Union) အဖွဲ့၊ Jammat uL Arakan အဖွဲ့နှင့် ဘင်္ဂလားဒေ့ရှ်မှ HUJI အဖွဲ့၊ JMB အဖွဲ့တို့ ပူးပေါင်းပါဝင်ခဲ့ကြသည်။ JMB အဖွဲ့နှင့် Jammat uL Arakan အဖွဲ့တို့မှ အကြမ်းဖက်ရာ၌ပါဝင်သူ ၁၃ဦးအပါအဝင် လူ ၂၀၀ ခန့်ကို ဘင်္ဂလားဒေ့ရှ်အစိုးရဖမ်းဆီးစစ်ဆေးလျက်ရှိနေသည်။ (DAINK COX'X Bazaar News)။ ဘင်္ဂလားဒေ့ရှ်အစိုးရက ထိုဒေသများ၌ ပြစ်မှုကျင့်ထုံးပုဒ်မ-၁၄၄ အရ ညမထွက်ရအမိန့် ထုတ်ပြန်ထားရသည်။ လူနည်းစုရခိုင်များ ရက်စက်စွာ တိုက်ခိုက်ခံခဲ့ရခြင်း ဖြစ်ပါသည်။

လူ့အခွင့်အရေးချိုးဖောက်နေသူ၊ တရားဥပဒေချိုးဖောက်နေသူ မည်သူလဲ။ နိုင်ငံတကာမီဒီယာ၊ သတင်းဌာနများ၊ အဖွဲ့အစည်းများက လူ့အခွင့်အရေးကို ခေါင်းစဉ်တပ်ပြီး မီးလောင်လေပင့်နေကြသည်။ **ယခုအရေး၌ လူ့အခွင့်အရေးသည် သာမညဖြစ်ပြီး အမျိုးသား**



**လုံခြုံရေးသည် ပဓာန** ဖြစ်သည်။ ရိုဟင်ဂျာပြဿနာမှာ လူ့အခွင့်အရေးပြဿနာလည်း မဟုတ်။ **ဒီမိုကရေစီပြဿနာလည်းမဟုတ်။ လူမျိုးတုလူမျိုး လိမ်ပြဿနာ၊ အကြမ်းဖက်သမားပြဿနာသာဖြစ်သည်။ ရိုဟင်ဂျာ အရေးအခင်းသည် နိုင်ငံရေးလုပ်ကြံမှုကြီး၊ နိုင်ငံတော်၏အချုပ်အခြာအာဏာကို ခြိမ်းခြောက်မှုကြီးသာ ဖြစ်သည်။** ရိုဟင်ဂျာအကြမ်းဖက်သမားများ၏ မြန်မာပြည်သိမ်းပိုက်ရေးဂျီဟတ်လမ်းစဉ်အတိုင်း သောင်းကျန်းဆူပူမှုများသာ ဖြစ်သည်။

လူ့အခွင့်အရေးသည် လူ့အသိဉာဏ်ရှိမှု၊ လူ့ကျင့်ဝတ်နားလည်မှု၊ မိမိနေထိုင်သည့်နိုင်ငံအပေါ် သစ္စာရှိမှု၊ လူ့စည်းကမ်းလိုက်နာမှု၊ လူသားချင်းစာနာပြီး အပြန်အလှန်နားလည်မှု စသည့် နယ်ပယ်၏ပြင်ပတွင် ရှိနိုင်မည်မဟုတ်ပါ။ **လူ့အခွင့်အရေးသည် မိစ္ဆာဒိဋ္ဌိတို့၏ အခွင့်အရေး မဖြစ်နိုင်ပါ။** ပြည်ပနိုင်ငံများ၊ ပြည်ပအဖွဲ့အစည်းများ၊ သတင်းဌာနများ၊ မီဒီယာများသည် မြန်မာနိုင်ငံ၏ ပြည်တွင်းရေးကို ဝင်ရောက်စွက်ဖက်မှုများ မလုပ်ကြဘဲ **နိုင်ငံတကာကျင့်ဝတ်၊ သတင်းဌာန ကျင့်ဝတ်၊ မီဒီယာကျင့်စဉ်များ၊ လူ့ကျင့်စဉ်များကို လူသားပီသစွာ လိုက်နာကျင့်သုံးကြရန်** လိုအပ်မည်ဖြစ်ပါသည်။

## ( င) ရိုဟင်ဂျာ ဘာလဲ၊ ဘယ်လဲ

ရခိုင်ပြည်တွင် ရှေးခေတ်အဆက်ဆက်ကပင် အခြေချမှီတင်းနေထိုင်လာသည့် တိုင်းရင်းသားမျိုးနွယ်စုထဲ၌ ချင်း၊ ခမီး၊ မြို၊ ဒိုင်းနက်၊ လင်းကြဲ၊ သက်၊ ခေါင်စို၊ သျှမ်း၊ ဒူး၊ အနူတို့ကို ဖော်ပြထားပါသည်။ နိုင်ငံခြားသားအဖြစ် အင်္ဂလိပ်၊ တရုတ်၊ အိန္ဒိယကုလားများ လာရောက်

နေထိုင်ခဲ့ကြောင်း ဖော်ပြထားပါသည်။ (ရခိုင်တိုင်း ပထဝီဝင်၊ ၁၉၅၁)

၁၉၈၃ ခုနှစ် သန်းခေါင်စာရင်းတွင် အသုံးပြုခဲ့သော တိုင်းရင်းသားလူမျိုးများစာရင်းတွင် တိုင်းရင်းသားလူမျိုး ၁၃၅ မျိုး ဖော်ပြထားရာ၌ ရိုဟင်ဂျာလူမျိုးဟူ၍ မတွေ့ရပါ။ ရခိုင်တိုင်းရင်းသား အစုတွင်လည်း ရခိုင်၊ ခမီး၊ မြို၊ သက်၊ ဒိုင်းနက်၊ ကမန်၊ မရမာကြီး ဟူ၍ ၇ မျိုးတွေ့ရပါသည်။ (ဖော်ပြပြီး၊ စာ-ရှ)

"မြန်မာနိုင်ငံတွင်နေထိုင်သော **တိုင်းရင်းသားလူမျိုးစု ၁၃၅ မျိုးတွင် ရိုဟင်ဂျာလူမျိုးဟူ၍ မရှိ။ သမိုင်းကြောင်းအရလည်း မရှိခဲ့။ လွတ်လပ်စွာ ကိုးကွယ်ခွင့်ပြုထားသည့် မြန်မာနိုင်ငံ၌ ဘာသာရေး ဖိနှိပ်ချုပ်ချယ်မှု ယခင်နှင့်ယခု အလျဉ်းမရှိ။ နောင်လည်း ရှိမည်မဟုတ်။ ဘာသာရေးဗန်းပြ၍ မဟုတ်မမှန် သတင်းလွှင့်ကာ အမြတ်ထုတ်ရန် ကြံစည်ကြိုးပမ်းချက်များမှာ အချည်းနှီးသာဖြစ်မည်။**" (၂၂.၂.၁၉၉၂ နေ့၊ မြန်မာ့အလင်း သတင်းစဉ်)

"**ပြည်ထောင်စုမြန်မာနိုင်ငံတော်ရှိ တိုင်းရင်းသားလူမျိုး စု ၁၀၀ ကျော်တွင် ရိုဟင်ဂျာဟူသည့်လူမျိုး ပါဝင်ခြင်း လုံးဝမရှိ ပါ**" (၃၀.၁.၂၀၀၉၊ မြန်မာ့အလင်းသတင်းစဉ်) လတ်တလော ပြည်ပသတင်းမီဒီယာအချို့က ရိုဟင်ဂျာလူမျိုးအချို့သည် စက်လှေ များဖြင့် ပင်လယ်ရေကြောင်းမှတစ်ဆင့် ထိုင်းနိုင်ငံတွင်းသို့ တရားမဝင် ဝင်ရောက်ရန် ကြိုးပမ်းမှုများရှိနေကြောင်းနှင့် ထိုရိုဟင်ဂျာများအနက် အချို့မှာ မြန်မာနိုင်ငံမှဖြစ်ကြောင်းကို ရေးသားထုတ်ဝေနေသည်ကို တွေ့ရကြောင်း၊ ပြည်ထောင်စုမြန်မာနိုင်ငံရှိ တိုင်းရင်းသားလူမျိုးစုများ



တွင် ရိုဟင်ဂျာဟူသည့်လူမျိုး ပါဝင်ခြင်း လုံးဝမရှိကြောင်းနှင့် ပြည် ထောင်စုမြန်မာနိုင်ငံအစိုးရ သက်ဆိုင်ရာဌာနများအနေဖြင့် ၄င်းကိစ္စ အပေါ် လိုအပ်သလို ဆက်လက်ဆောင်ရွက်သွားမည်ဖြစ်ကြောင်း" ၂၀၀၉၊ ဇန်နဝါရီ ၃၀ ရက်ထုတ် သတင်းစာများ၌ သတင်းထုတ်ပြန်ခဲ့ ပါသည်။ (မြန်မာ့အလင်းသတင်းစာ၊ ၃၁.၃.၂၀၀၉)

"**တိုင်းရင်းသားမဟုတ်ဘဲ ခိုးဝင်လာသည့် ရိုဟင်ဂျာ များကို လက်ခံရန် မည်သို့မျှမဖြစ်နိုင်။ နောက်ဆုံးဖြေရှင်းသည့် နည်းလမ်းမှာ ခိုးဝင်လာသည့် ရိုဟင်ဂျာများကို UNHCR သို့ အပ်နှံပြီး ဒုက္ခသည်စခန်းအဖြစ် ထားရှိရန်၊ UNHCR က ကျွေးမွေးစောင့်ရှောက်ပေးရန်နှင့် တတိယနိုင်ငံက လက်ခံမည် ဆိုလျှင်ပို့ပေးမည်ဖြစ်ကြောင်း**" **နိုင်ငံတော်သမ္မတကြီးဦးသိန်းစိန်** ကိုယ်တိုင် သတင်းထုတ်လွှင့်ပြောကြားပြီးလည်း ဖြစ်ပါသည်။ (၂၀၁၂ ခုနှစ်၊ ဇွန်လ အရေးအခင်းပြီးနောက် ထုတ်လွှင့်ပြောကြားချက်)

ပြည်ထောင်စုဝန်ကြီးဦးခင်ရီကလည်း "**ကျွန်တော်တို့ဆီမှာ ရိုဟင်ဂျာဆိုတာ မရှိဘူး။ ကျွန်တော်တို့ တိုင်းရင်းသားလူမျိုးစု ထဲမှာ ရိုဟင်ဂျာဆိုတာ မရှိဘူး။ ကျွန်တော်တို့တိုင်းရင်းသား လည်း မဟုတ်ဘူး**"ဟု (၂၀၁၂၊ မေလ ၂၈ ရက်နေ့ ပဲခူးတိုင်း၊ ကျောက်ကြီးမြို့နယ်၌ ရွှေ့ပြောင်းဒုက္ခသည်များ မှတ်ပုံတင်ထုတ် ပေးမည့်အခမ်းအနားတွင်) ပြောကြားခဲ့သည်။ မြန်မာနိုင်ငံရဲချုပ်အဖြစ် တာဝန်ထမ်းဆောင်နေချိန်ကလည်း "ဘာလီအစည်းအဝေး"၌ ရိုဟင်ဂျာများသည် မြန်မာတိုင်းရင်းသားမဟုတ်ကြောင်း ပြောခဲ့သည်။

**ဒေါ်အောင်ဆန်းစုကြည်က "ရိုဟင်ဂျာဆိုတာ ကျွန်မ**

**မကြားဖူးဘူး**''ဟုပင် ဆိုသည်။ ရခိုင်ပြည်နယ်၌ နှစ်ပေါင်းများစွာ တာဝန်များစွာ ထမ်းဆောင်ခဲ့သူ NLD မှ ဦးတင်ဦးကလည်း ရိုဟင်ဂျာလူမျိုး မရှိကြောင်း၊ တစ်ဖက်နိုင်ငံမှ တရားမဝင်ခိုးဝင်ရောက်လာသူများသာဖြစ်ကြောင်း ပြတ်ပြတ်သားသား ပြောခဲ့သည်။

ရိုဟင်ဂျာလူမျိုးတုကို စ၍စင်တင်သူ ဘင်္ဂလီအမတ် မစ္စတာဂေါ်ဖားအား ဦးဖော်ဇံက ပထမဦးဆုံး ''**ရိုဟင်ဂျာသည် လူမျိုးတစ်မျိုး မဟုတ်ကြောင်း**''၊ ''**ရိုဟင်ဂျာဟူ၍ မရှိကြောင်း**'' (Sudeten Muslim, The Grardian Daily, 6.9.1951) တုံ့ပြန်ခဲ့သည်။

နိုင်ငံတော်ကောင်စီဝင် ဦးလှထွန်းဖြူ၏နိုင်ငံတော်သို့ တင်ပြသည့် ''အနောက်ဘက်တံခါးမှ မွတ်ဆလင်လူငယ်များ ရခိုင်ပြည်နယ်တွင်းသို့ ခိုးသွင်းခိုးဝင်လာခြင်းပြဿနာ အစီရင်ခံစာ'' (၁၉၇၆ စက်တင်ဘာ)၌ ''၁၉၅၂-၅၃ ခုနှစ်များတွင် ပြည်တွင်းမွတ်ဆလင်များနှင့် အရှေ့ပါကစ္စတန်မှ ဝင်ရောက်လာသည့် မွတ်ဆလင်များသည် ရခိုင်ပြည်နယ်၌ လူမျိုးစုတစ်ရပ်ဖြစ်လာဖို့ ရိုဟင်ဂျာအမည်သို့ ပြောင်းလဲသည့် စာရွက်စာတမ်းအမြောက်အမြားကို ထုတ်ဝေလာခဲ့ကြသည်။ ရိုဟင်ဂျာဟူသည်မှာ ရခိုင်ပြည်တွင် မည်သည့်အခါကမျှ မရှိခဲ့ပေ'' (စာ-၂၂) ဟု ဖော်ထုတ်ခဲ့ပါသည်။

ရခိုင်တိုင်းမင်းကြီးတာဝန် ထမ်းဆောင်ခဲ့သူ ဆရာကြီး မောင်ထင်(ဦးထင်ဖတ်)၏ ''ဘဝအမြင်''စာအုပ်ပါ ရခိုင်ပြည်နယ် အစီရင်ခံစာ၌လည်း ''ရခိုင်တို့သည် အိမ်ရှင်ဖြစ်၏။ စစ်တကောင်းသားတို့ကား ဧည့်သည်တည်း။ စစ်တကောင်းအနွယ်လူမျိုးနှင့် ရခိုင်တိုင်းရင်းသားတို့သည် နီးတကျက်ကျက် အတူနေထိုင်လာကြရသည်။ ဤသို့



နေထိုင်လာသည်မှာ ဗြိတိသျှတို့ ရခိုင်ပြည်ကို ချင်းနင်းဝင်ရောက်လာသည့်နေ့ကစ၍ နေထိုင်လာကြခြင်းဖြစ်သည်။ စစ်ပြီးခေတ် စစ်တကောင်းသားတို့၏ဝါဒသည် နတ်မြစ်တစ်ဖက်ကမ်းရှိ မယူတောင်တန်းဒေသနှင့် ကုလားပန်ဇင်းမြစ်ဝှမ်းဒေသတို့ကို နယ်သစ်အဖြစ်ဖြင့် အခြေစိုက်ရန်ဟူသောဝါဒဖြစ်သည်။'' (စာ-၂၀၄)

ရခိုင်သမိုင်းဖြင့် ပါရဂူဘွဲ့ယူခဲ့သူ **ပြင်သစ်နိုင်ငံသား ရခိုင်သမိုင်းပညာရှင် ဂျက်ပီလိုက်ဒါက ''ရိုဟင်ဂျာဆိုသည်မှာ တိုင်းရင်းသားနာမည် မဟုတ်ဘူး။ ခေါ်ဝေါ်စရာ နာမည်သက်သက်ပါပဲ။ ရိုဟင်ဂျာဟူသည့် အသုံးအနှုန်းဟာ ရခိုင်မှာနေကြတဲ့ မွတ်ဆလင်တွေက သူတို့ကိုယ်သူတို့ ခေါ်ဝေါ်ကြတဲ့ အသုံးအနှုန်း** ဆိုပြီး ပြောထားတယ်။ ဘယ်ကနေ ဒီစကားလုံး ဆင်းသက်လာသလဲဆိုရင် ရခိုင်တွေကို ဘင်္ဂလီတွေခေါ်တဲ့ (Roshanga) ဆိုတဲ့ ဘင်္ဂလီနာမည်ကနေ ဆင်းသက်လာတာပါပဲ'' ဟု ဆိုသည်။ (မော်ကွန်းဂျာနယ်၊ တွဲ-၁၊ ၂၀၁၂ စက်တင်ဘာ၊ ညဏ်လင်း၊ ဇေယျာလှိုင်တို့ အင်တာဗျူး)

သမိုင်းပညာရှင် ဒေါက်တာအေးကျော်၊ ဒေါက်တာအေးချမ်းတို့ကလည်း ရခိုင်ပြည်တွင် ရိုဟင်ဂျာလူမျိုး၊ ရိုဟင်ဂျာအမည် မည်သည့်အခါမှမရှိကြောင်း အစဉ်တစိုက်ပြောဆိုရေးသားခဲ့ကြသည်။ နိုင်ငံတကာကွန်ဖရင့်တွင် သက်သေအခိုင်အမာဖြင့် တင်ပြခဲ့ကြသည်။

''မြင်မြင်သမျှ ယောက္ခမထန်းတော''ဆိုတာမျိုးနဲ့ ဘင်္ဂလီမှန်သမျှ ရိုဟင်ဂျာတွေ၊ နိုင်ငံမဲ့ဒုက္ခသည်တွေလို့ ကင်ပွန်းတပ်ပြီး ဇာတ်နာအောင် နိုင်ငံရေးအရထိုးနှက်နိုင်အောင်လုပ်နေတာကတော့

စိတ်ပျက်ဖို့ကောင်းပါတယ်။ (ပိန္နဲပင်ဆွဲမထည့်နဲ့၊ မြန်မာ့အလင်း၊ ၆.၂.၂၀၀၉ထုတ်၊ စာ-၅) ဆရာကိုမြန်မာ၏ ထုတ်ဖော်ရေးသားချက်ဖြစ်ပါသည်။ ၈.၂.၂၀၀၉ နေ့ထုတ် မြန်မာ့အလင်းသတင်းစာ (စာ-၆) ၌ ဆရာမောင်ဖိုးမှတ်က "ရိုဟင်ဂျာဆိုတာ မြန်မာလည်းမဟုတ်။ မြန်မာနိုင်ငံတွင်လည်းမရှိ" ဟူ၍ ခေါင်းစဉ်တပ်၍ပင် ရေးခဲ့ပါသည်။

စာရေးဆရာကြီးအောင်သင်းက "ရိုဟင်ဂျာကို တိုင်းရင်းသားထဲပါတယ်လို့ တစ်ခါမှမယူဆခဲ့ပါဘူး။ သူ့သမိုင်းကြောင်းကို ပြန်ကြည့်ရင် သူဟာ တိုင်းရင်းသားထဲမှာမပါဘူး။ ဗမာပြည်လွတ်လပ်ရေးရတဲ့အချိန်မှာ သူတို့တွေက နေရာယူချင်လာတယ်။ နယ်စပ်မှာဖြစ်နေတဲ့အခါကျတော့ အစိုးရက မလွှမ်းမိုးနိုင်ဘူး။ အဲဒီအခါမှာ ရိုဟင်ဂျာတွေက ပြည်တွင်းမှာ သူပုန်အနေနဲ့ဝင်လာပြီး သောင်းကျန်းသူတွေတော်တော်လုပ်တယ်။ သူတို့က ပြည်ထဲကို ဇွတ်အတင်းနေရာယူသောင်းကျန်းသူတွေဖြစ်တယ်လို့ ဆရာကတော့ အဲဒီလိုပဲမြင်တယ်" (ဆရာအောင်သင်းနှင့် အင်တာဗျူး(၂)၊ မမေသကြ်န်ဟိန်း)

ဘင်္ဂလီတို့အနေဖြင့် ရိုဟင်ဂျာလူမျိုးဟု မိမိကိုယ်ကို သမိုင်းအထောက်အထားများပြကာ ခေါ်ဆိုနေသော်လည်း ရိုဟင်ဂျာလူမျိုးဟူ၍ မည်သည့်သမိုင်းစာအုပ်တွင်မျှ မရှိသည်ကို တွေ့ရသည်။ (ဦးမြင့်သိန်း၊ သမိုင်းပါမောက္ခ၊ ရခိုင်ဒေသသို့ မွတ်ဆလင်ဝင်ရောက်ခြင်း၊ စာ-၃၀)

ဦးနု ဖဆပလအစိုးရသည် အမတ်ဦးရေတိုးပွားရေးကို မျှော်ကိုး၍ ဘူးသီးတောင်၊ မောင်တောဘက်မှ မွတ်ဆလင်များ ခိုးဝင်နေခြင်းကို ဥပဒေနှင့်အညီစိစစ်ခြင်းမပြုဘဲ ၁၉၅၅-၅၆ခုနှစ်တွင် မှတ်ပုံတင်



ကတ်ပြားများ ထုတ်ပေးခဲ့ကြောင်း "ဓမ္မအန္တရာယ် ရိုဟင်ဂျာ" ခေါင်းစဉ်ဖြင့် ဆရာဖိုးကံကောင်းက မြက်ခင်းသစ်မဂ္ဂဇင်း (၁၉၉၂/မေ)တွင် ရေးခဲ့ပါသည်။ ၄င်းအကြမ်းဖက်သမားများသည် "ဓမ္မအန္တရာယ် ရိုဟင်ဂျာ" အမှန်ပင်ဖြစ်ပါသည်။

ရိုဟင်ဂျာအမည်ခံသူ ပညာတတ်မွတ်ဆလင်တို့သည် မောင်တောနှင့် ဘူးသီးတောင်မြို့နယ်များမှ မွတ်ဆလင်လူထုကို ဘင်္ဂလီအမည် မခံစေဘဲ ရခိုင်မွတ်ဆလင် (သို့) ရိုဟင်ဂျာလူမျိုးဟူသောအမည်ကို ပြောင်းလဲခံယူရန် လှုံ့ဆော်ခဲ့ကြသည်။ (ဦးရွှေဇံ၊ ရခိုင်ပြည်နယ်အတွင်းသို့ ဝင်ရောက်လာသော ဘင်္ဂလီများအား လေ့လာချက်-၂၀၀၅)

ယနေ့ ရခိုင်ပြည်သည် ရိုဟင်ဂျာဟုခေါ်ဆိုသော ဘင်္ဂလီမွတ်ဆလင်တစ်စုမှ အကွက်ကောင်းကိုဖန်တီး၍ တိုင်းရင်းသားအဖြစ်ခံယူရန် အမျိုးမျိုးသော သမိုင်းလိမ်ညာချက်များဖြင့် ကမ္ဘာ့မီဒီယာလောကသို့ နေ့စဉ်နှင့်အမျှ မဟုတ်မမှန်သောသတင်းများကို ဖြန့်ချိလျက်ရှိနေပါသည်။ သူတို့သည် ရခိုင်သမိုင်းတွင် မည်သည့်အခါမှ ရှိခဲ့ဖူးသောလူမျိုးတစ်စု မဟုတ်ကြောင်း သမိုင်းသက်သေများ အတိအကျရှိပါသည်။ (၉.၁၁.၂၀၁၁ နေ့၊ အမေရိကန်နိုင်ငံခြားရေးဝန်ကြီးမစ္စဟီလာရီကလင်တန်ထံ အိတ်ဖွင့်ပေးစာ၊ ဒေါ်စောခင်တင့်၊ ဥက္ကဋ္ဌ-ရခိုင်စာ/ယဉ်အဖွဲ့(ရန်ကုန်))

၁.၈.၂၀၁၂ နေ့၊ မြန်မာနိုင်ငံ ပြည်ထောင်စုလွှတ်တော်နာယက၊ အမျိုးသားလွှတ်တော်ဥက္ကဋ္ဌ **ဦးခင်အောင်မြင့်**က အင်ဒိုနီးရှားနိုင်ငံ အထက်လွှတ်တော်ဥက္ကဋ္ဌ (အာဆီယံအမတ်များညီလာခံ A.I.P.A ဥက္ကဋ္ဌ) Dr. Marzuki Alie Abdul Madjid အား ပြန်ကြား

လွှာတွင် "... the so called Rohingya doen't exit in this country and that race does not even exit in the race of Myanmar ..." **(ရိုဟင်ဂျာဆိုသူများသည် ဤနိုင်ငံတွင် မရှိပါ။ ၎င်းအပြင် ရိုဟင်ဂျာလူမျိုးသည် မြန်မာလူမျိုးပေါင်းစုံစာရင်းတွင်လည်း ပါဝင်ခြင်းမရှိပါ။)** ဟု ပြန်ကြားထားကြောင်း တွေ့ရပါသည်။

ဒေါက်တာသန်းထွန်း(သမိုင်းပါမောက္ခ)၏ "ခေတ်ဟောင်း မြန်မာရာဇဝင်စာအုပ်၊ မြန်မာနိုင်ငံအတွင်း နေထိုင်ကြသူများ"တွင် လည်း ရိုဟင်ဂျာမပါ။ ရိုဟင်ဂျာသည် မိုးကျရွှေကိုယ်တော် လူမျိုး ဖြစ်နေသည်။ ရိုဟင်ဂျာ ဘာလဲ၊ ဘယ်လဲဟု မေးမည်ဆိုလျှင် အဖြေက ရှင်းပြီးသားဖြစ်ပါသည်။ ရိုဟင်ဂျာမှာ အကြမ်းဖက်သမားများ ဖြစ်သည်။ ရခိုင်ပြည်နယ်ကို လူလိုင်းဖြင့်အပိုင်စီးပြီး အစ္စလာမ်မစ် နိုင်ငံထူထောင်ရန် သောင်းကျန်းနေကြသည့် အကြမ်းဖက်သမားများ ပင် ဖြစ်သည်။ ရိုဟင်ဂျာကို ဘယ်လိုလုပ်မလဲမေးမည်ဆိုလျှင် အကြမ်းဖက်တို့၏ လားရာလမ်းအတိုင်း ပြည်ထောင်စုမြန်မာနိုင်ငံ အချုပ်အခြာ အာဏာတည်တံ့ခိုင်မြဲရေးနှင့် ပြည်ထောင်စုမပြိုကွဲရေးကို ရှေးရှုကာ တိုင်းပြည်က နှင်ထုတ်ရုံသာရှိတော့သည်။ သူတို့အကျိုးကို လိုလားနေသော အစ္စလာမ်မစ်နိုင်ငံများက လိုလားစွာလက်ခံကြပါလိမ့်မည်။

# အပိုင်း (၈)

# ရခိုင်ပြည်နယ်ရှိ ရခိုင်လူမျိုးတို့၏ အနာဂတ်အရေး

ရခိုင်ပြည်နယ်ရှိ ရခိုင်တိုင်းရင်းသားတို့သည် ဆူနာမီပမာ ကြီးမား ကြောက်မက်ဖွယ်ကောင်းသည့် ဘင်္ဂလီလှိုင်းလုံးကြီးများ ရိုက်ခတ်မှုဒဏ်ကို စဉ်ဆက်မပြတ်ကြိတ်မှိတ်ပြီး ခံစားလာခဲ့ကြရပါသည်။ ၁၉၄၂ ခုနှစ် ကုလား-ရခိုင် အဓိကရုဏ်းဖြစ်ပွားပြီးနောက်ပိုင်း၌ ၁၉၈၈ ခုနှစ်၊ မေလတွင် တစ်ကြိမ်၊ ၁၉၉၆ ခုနှစ်တွင် တစ်ကြိမ်၊ ၂၀၀၁ ခုနှစ်တွင် တစ်ကြိမ် ဆက်တိုက်ဖြစ်ပွားလာခဲ့ရာ ယခု ၂၀၁၂ ခုနှစ်၊ ဇွန်လ ၈ ရက်နေ့မှစတင်၍ဖြစ်ပွားခဲ့သော ဆူပူအကြမ်းဖက်မှုအရေး အခင်းသည် ၁၉၄၂ ခုနှစ် အကြမ်းဖက်မှုနောက်ပိုင်းတွင် အပြင်းထန် ဆုံး၊ လူအသေအပျောက်အများဆုံးနှင့် ပျက်စီးဆုံးရှုံးမှုအများဆုံး အရေး အခင်းဖြစ်ပါသည်။ ယခုတစ်ကြိမ်တွင်လည်း ယခင်ကနည်းတူပင်



မောင်တောမြို့နယ်ရှိ ဘင်္ဂလီမွတ်ဆလင်များက တိုင်းရင်းသားများကို စတင်တိုက်ခိုက်၊ မီးရှို့၊ သတ်ဖြတ်ခဲ့ကြခြင်းဖြစ်သည်။ ဘင်္ဂလီမွတ် ဆလင်များသည် နေ့အချိန်၌ပင် မောင်တောမြို့ပေါ်ရှိ တိုင်းရင်းသား လူနေရပ်ကွက်များ၊ ဈေးဆိုင်များ၊ ဘုန်းကြီးကျောင်းများကို မင်းမဲ့ စရိုက်ဆန်ဆန် တုတ်၊ ဓား၊ လက်နက်များကိုင်ပြီး မီးရှို့၊ တိုက်ခိုက်၊ သတ်ဖြတ်ခဲ့ကြသည်။ တစ်ချိန်တည်း တစ်ပြိုင်တည်းတွင် မြို့နယ် တစ်ခုလုံးရှိ တိုင်းရင်းသားရွာများကို မီးရှို့တိုက်ခိုက်ကြသည်။ သတ် ဖြတ်ကြသည်။

မောင်တောမြို့နယ်၊ သရီကုန်ဘောင်ရွာ၌ မိမိတို့အား စာပေ သင်ကြားပေးနေသည့် ရခိုင်လူမျိုးကျောင်းအုပ်ဆရာကြီး ဦးမောင် ချမ်းသာနှင့်ဇနီးတို့ကို ဘင်္ဂလီမွတ်ဆလင်တပည့်များကိုယ်တိုင် ဝိုင်းဝန်း ခုတ်သတ်ခဲ့ကြသည်။ ကမ္ဘာတွင်မည့် ရက်စက်ယုတ်မာမှုဖြစ်သည်။ စစ်တွေမြို့၊ ပိုက်သည်ကုလားရွာ၌ ဘင်္ဂလီမွတ်ဆလင်တချို့က မိမိတို့ နေအိမ်ငယ်များကို မိမိတို့ကိုယ်တိုင်မီးရှို့ပြီး ထွက်ပြေးကြသည့်အခါ ၎င်းရပ်ကွက်နေ **ဘင်္ဂလီတစ်ဦးဖြစ်သည့် အထက်တန်းပြကျောင်း ဆရာမ ဒေါ်ခင်မေအား ၎င်းထံစာသင်ခဲ့ဖူးသည့် ရခိုင်တပည့် ဟောင်းများက အန္တရာယ်ကို ကာကွယ်ပြီး စက်လှေပေါ်သို့ လုံခြုံစွာ တင်ပေးလိုက်ကြသည်။** မတူညီသောစိတ်ထားနှစ်ရပ်ကို နှိုင်းယှဉ်ကြည့်ခြင်း ဖြစ်ပါသည်။ ၎င်းဒေါ်ခင်မေက ရခိုင်တပည့်များ၏ စေတနာကိုစော်ကားပြီး ဗမာအမျိုးသားတစ်ဦးက ဒေါ်ခင်မေအား အင်တာဗျူးလုပ်ထားသည့် ဗွီဒီယိုခွေတွင် "**ရခိုင်များက မွတ်ဆလင် အဝတ်အစားများကို ဝတ်ပြီး သူတို့နေအိမ်များကို မီးဝင်ရှို့ခြင်း**

**ဖြစ်ကြောင်း၊ အသက်လုပြီး ရေထဲကူးပြေးခဲ့ရကြောင်း''** မှသားစကား ဆိုထားသည်။ နောက်ပြီး သူ့မှာ နိုင်ငံကားကတ်ရှိကြောင်း၊ ကမန်လူမျိုးဖြစ်ကြောင်း ပြောထားသေးသည်။ ကမန်လူမျိုးဟု လိမ်လည်ပြီး နိုင်ငံသားကတ်ကို လိမ်လည်လုပ်ထားကြောင်း ပေါ်သွားပါသည်။ ဤနမူနာအချက်မှာ ဘင်္ဂလီလူမျိုးများ၏ မရိုးသားသည့်စိတ်ဓာတ်၊ ကျေးဇူးမသိသည့်စိတ်ဓာတ်များ၊ လူသတ်ဝါဒစိတ်ဓာတ်များကို ဖော်ပြနေပါသည်။ ဘာသာမတူ၊ အယူဝါဒ အကျင့်စရိုက်မတူသူတို့သည် ဆရာကြီးမောင်ထင် ရေးခဲ့သကဲ့သို့ ''နီးတကျက်ကျက်'' ဖြစ်လာခဲ့ရသည်မှာ အကြိမ်ပေါင်းမနည်းတော့ပြီ။ သွေးချောင်းစီးမှုများ မနည်းပါပြီ။ မီးဟုန်းဟုန်းတောက်မှုများ မနည်းပါပြီ။

အဓိကရုဏ်းများ ဖြစ်တိုင်းဖြစ်တိုင်းမှာ ဘင်္ဂလီကုလားများကသာ စတင်ပြုလုပ်မှုကြောင့် ဖြစ်ပွားခဲ့ရကြောင်း သမိုင်းကြောင်းအရ သုံးသပ်တွေ့ရှိရပါသည်။ ရခိုင်ပြည်နယ်တွင် နေထိုင်ကြသော ရခိုင်၊ ဗမာ၊ ဒိုင်းနက်၊ သက်၊ ခမီး၊ မြို၊ ချင်း စသည့် တိုင်းရင်းသားလူမျိုးအချင်းချင်းမှာ မည်သည့်အခါကမျှ ယခုကဲ့သို့ အုပ်စုဖွဲ့ အဓိကရုဏ်းဖြစ်ပွားသည်ဟူ၍လည်း မရှိခဲ့ဘဲ ငြိမ်းချမ်းစွာသာ အတူနေထိုင်လာခဲ့ကြပါသည်။ အင်္ဂလိပ်ခေတ်ကတည်းက ဝင်ရောက်နေထိုင်လာခဲ့ကြသည့် တရုတ်၊ ဟိန္ဒူလူမျိုးများလည်း ရှိကြပါသည်။ သူတို့နှင့်လည်း ထိုသို့တစ်ခါမျှ မဖြစ်ခဲ့ဘူးပါ။ ဘင်္ဂလီကုလားများကသာ ရခိုင်ပြည်နယ်ရှိ မြို့ရွာ၊ ရပ်ကွက်များသို့ မီးရှို့ဖျက်ဆီးခြင်း၊ ဘာသာရေးအဆောက်အဦများကို မီးရှို့ခြင်း၊ စာသင်ကျောင်း၊ ရုံး၊ အဆောက်အအုံများကို မီးရှို့ခြင်း၊ တုတ်၊ ဓား၊ လက်နက်များဖြင့် တိုက်ခိုက်ခြင်း၊



တိုင်းရင်းသား အမျိုးသမီးများအား မုဒိမ်းကျင့် သတ်ဖြတ်ခြင်းများ အကြိမ်ကြိမ်ပြုလုပ်လာခဲ့ကြခြင်း ဖြစ်ပါသည်။

၁၉၄၂ ခုနှစ် ကုလား-ရခိုင် အဓိကရုဏ်းကြောင့် ဘူးသီးတောင်၊ မောင်တောမြို့နယ်များမှ ရခိုင်တိုင်းရင်းသားများစွာတို့သည် မယုတောင်ရိုးကိုဖြတ်ပြီး ကုလားတန်လွင်ပြင်သို့ အပြီးအပိုင် ထွက်ပြေးတိမ်းရှောင်ခဲ့ကြရပါသည်။ ထိုနေရာများ၌ ဘင်္ဂလီများက ခြေကုပ်ယူပြီး ပိုင်ရှင်ခံသွားခဲ့ကြသည်။ တချို့မှာ အင်္ဂလိပ်ပိုင်သည့် အိန္ဒိယ (ယခုဘင်္ဂလားဒေ့ရှ်)နယ်သို့ သိမ်းချုံပြီး ထွက်ပြေးသွားခဲ့ရသည်။ ဒိုင်နာစပို့ဒုက္ခသည်စခန်း၌ နေခဲ့ကြသည်။ ကပ်ရောဂါအမျိုးမျိုးဖြင့် သေကြသည်။ မယုတောင်ကို ဖြတ်ပြေးသူအများအပြား ကုလားခုတ်၍ သေကြသည်။ ထိုသို့ အသက်လုထွက်ပြေးတိမ်းရှောင်လာကြသည့် ရခိုင်အုပ်စုတချို့မှာ ယခုထိ စစ်တွေမြို့၌ သားစဉ်မြေးဆက်ရှိနေကြသည်။ ကိုယ်တိုင်ခံစားခဲ့ကြရသူများ ရှိနေကြသေးသည်။ ယခုတစ်ကြိမ်တွင် စစ်တွေမြို့၌ပင် နေ့အချိန် ရဲတင်းစွာဖြင့် ဘင်္ဂလီများ၏ မီးရှို့ခြင်း၊ တိုက်ခိုက်ခြင်းများ ခံကြရပြန်သည့်အခါ ပြေးစရာမြေမရှိသလိုဖြစ်ကြရတော့သည်။ ဘင်္ဂလီမွတ်ဆလင်များသည် ရခိုင်ကိုသာ တိုက်ခိုက်ခဲ့ခြင်းမဟုတ်ဘဲ တခြားတိုင်းရင်းများ ဟိန္ဒူများ၊ တရုတ်လူမျိုးများကိုပါ တိုက်ခိုက်ခဲ့ကြခြင်း ဖြစ်သည်။

ယခုအခါ ဘင်္ဂလီမွတ်ဆလင်များနှင့် တိုင်းရင်းသားများကြား၌ အကြောက်တရားများ၊ အငြိုးအာဃာတများ၊ အမုန်းတရားများသည် ထုနှင့်ထည်နှင့် ကြီးမား၍သာ လာခဲ့ကြပါသည်။

(က) စစ်တွေမြို့တော်အခြေအနေနှင့်ပတ်သက်၍ သုံးသပ်ချက်

နယ်ချဲ့အင်္ဂလိပ်တို့သည် စစ်တွေမြို့ကို ၁၈၂၆ ခုနှစ်တွင် တည်ခဲ့သည်။ မြို့တော်သက်တမ်း ၁၈၆ နှစ်ရှိပြီဖြစ်သည်။ ၁၉၂၂ ခုနှစ် သန်းခေါင်စာရင်းအရ စစ်တွေမြို့တွင် စစ်တကောင်းသား မွတ်ဆလင်ဦးရေမှာ တစ်သောင်းကျော်ခန့်သာ ရှိပါသည်။ တစ်ဖက်နိုင်ငံမှ နည်းမျိုးစုံဖြင့် ခေတ်အဆက်ဆက် တရားမဝင် ဝင်ရောက်လာကြသည့် ဘင်္ဂလီမွတ်ဆလင်ဦးရေမှာ ကြောက်လန့်စရာအဆင့်အထိ ဖြစ်လာခဲ့ပါသည်။ ထိုသူတို့သည် မြို့တော်၏ အချက်အချာကျသည့် နေရာများတွင် ထိုးဖောက်ဝင်ရောက်နေထိုင်လာကြသဖြင့် ပြည်နယ်မြို့တော်၏ လုံခြုံရေးကို ခြိမ်းခြောက်နိုင်သည့် အခြေအနေအထိပင် ဖြစ်လာခဲ့သည်။

ဘင်္ဂလီယောက်ျားများ ဇနီးမယားများစွာယူကြပြီး သားသမီးများကို အတားအဆီးမရှိ ဒလဟော မွေးထုတ်နေကြခြင်း၊ တစ်ဖက်နိုင်ငံမှ အတားအဆီးမရှိ ဒလဟော ခိုးဝင်နေထိုင်ကြခြင်းများကြောင့် လူဦးရေ ပွတ်သိပ်မှု၊ လူနေအိမ်ပွတ်သိပ်မှုများ အလွန့်အလွန်ကြီးမားလာပါသည်။ တစ်ဖက်တွင် ဘင်္ဂလီများမှာ ပညာတတ်သူနည်းပါးသဖြင့် အကျင့်စာရိတ္တပျက်စီးသူများပါသည်။ ခိုးဆိုးလုယက်မှု၊ ဆူပူသောင်းကျန်းမှု စသည့် ဒုစရိုက်မှုကျူးလွန်သူ များပါသည်။ မြို့ပေါ်အချက်အချာကျသည့်နေရာများ၌ လှည့်ပတ်တောင်းစားသူများလည်း များပြားလာသည်။ အသိဉာဏ်နည်းပါးသဖြင့် ဥပဒေမဲ့ ဒုစရိုက်မှုများ ပြုလုပ်ရန် ဝန်မလေးကြသူများ ဖြစ်ပါသည်။ ထိုသို့သော အောက်ခြေဆင်းရဲသား ဘင်္ဂလီလူထုကြီးကို ပညာတတ်၊ ငွေကြေးချမ်းသာသူ၊



ဘာသာရေးအစွန်းရောက်မွတ်ဆလင်အုပ်စုက လူမျိုးရေးအဓိကရုဏ်းဖန်တီးရန် သွေးထိုးလှုံ့ဆော်ခဲ့ကြသည်။ ရိုဟင်ဂျာလူမျိုးလိမ်မှိုင်း သွင်းပေးကြသည်။ ထိုသူတို့၏နောက်တွင် RSO, ARNO စသည့် လက်နက်ကိုင်သောင်းကျန်းသူအဖွဲ့များ၊ အယ်လ်ကိုင်ဒါ၊ တာလီဘန်အဖွဲ့များ ဆက်နွှယ်ပတ်သက်လျက်ရှိသည်။

စစ်တွေမြို့၌ ဘင်္ဂလီမွတ်ဆလင်နေအိမ်များ၊ ရပ်ကွက်များနှင့် ရောထွေးယှက်တင်ထိစပ်မှုရှိနေသည့်အပြင် အစိုးရအဆောက်အဦများနှင့် စစ်တွေတက္ကသိုလ်၊ လှျပ်စစ်မီးစက်ကြီး၊ လေယာဉ်ကွင်း၊ မီးရထားလမ်း စသည်တို့မှာလည်း ဘင်္ဂလီရပ်ကွက်များနှင့် ရောထွေး ထိစပ်လျက်ရှိနေပါသည်။ စစ်တွေနည်းပညာတက္ကသိုလ်ကျောင်းသားများမှာ ဘင်္ဂလီမွတ်ဆလင်ရွာများကိုဖြတ်ပြီး ကျောင်းသွားနေကြရသဖြင့် ယခုထိ လုံခြုံရေးချထားပေးနေရဆဲ ဖြစ်ပါသည်။ စစ်တွေတက္ကသိုလ်မှာ ဘုမေ ကုလားရွာထဲ၌ရှိနေ၍ လုံခြုံရေးတင်းကျပ်စွာ ချထားပေးနေရဆဲ ဖြစ်ပါသည်။ မှန်စီသင်္ချိုင်းသို့သွားရာလမ်းတစ်လျှောက် ဘင်္ဂလီရွာများရှိနေသဖြင့် မြို့ထဲမှ အသုဘအလောင်းများကို မှန်စီသင်္ချိုင်းသို့ သွားရောက်သင်္ဂြိုဟ်ခြင်း မပြုနိုင်တော့ဘဲ အသုံးမပြုတော့သည့် မြို့ထဲရှိ ယခင်သင်္ချိုင်းဟောင်းတွင် ယာယီမီးသင်္ဂြိုဟ်နေကြရပါသည်။ မှန်စီသို့ အသုဘသင်္ဂြိုဟ်ရန်သွားသည့် ယာဉ်တန်းကို ဘုမေရွာမှ ဘင်္ဂလီများက တုတ်များ၊ ခဲများဖြင့် ဝိုင်းဝန်းတိုက်ခိုက်ခဲ့ကြသဖြင့် ထိုသို့ပြုလုပ်နေကြရခြင်းဖြစ်သည်။ ထိုအနေအထားကြောင့် ဘင်္ဂလီမွတ်ဆလင်များမှာ ပိုပြီးအားတက်အတင့်ရဲလာကြသည်။

အရေးအခင်းပြီးနောက် မစ္စတာကင်းတားနား စစ်တွေမြို့သို့

ရောက်ရှိနေသည့်အချိန်တွင် စစ်တွေမြို့နယ်(အောင်တိုင်)ဘင်္ဂလီရွာသို့ ရဲလုံခြုံရေးဖြင့် ကျောင်းပြရန်သွားသည့် ရခိုင်လူမျိုး ကျောင်းဆရာမများနှင့် ရဲများကို ဘင်္ဂလီသားများ ဝိုင်းပြီးတိုက်ခိုက်ရန်လုပ်ရာ စစ်တပ်ကရောက်လာသဖြင့် လက်မတင်လေးလွတ်မြောက်ခဲ့ကြသည်။

စစ်တွေမြို့၌ ပထမဆုံးတိုက်ခိုက်ခံရသည့် မင်းဂံရပ်ကွက်သည် ဘုမေကုလားရွာ၊ သဲချောင်းကုလားရွာနှင့် ထိစပ်နေသဖြင့် တိုက်ခိုက်ခံခဲ့ရခြင်းဖြစ်သည်။ ဘုမေ၊ သဲချောင်းရွာတို့မှ ဘင်္ဂလီကုလားတို့က မင်းဂံရပ်ကွက်ကို (၁၀.၆.၂၀၁၂)နေ့ညတွင် တိုက်ခိုက်ကြခြင်းဖြစ်သည်။ မင်းဂံရပ်ကွက်နေ ဦးဘရွှေမှာ ယခုထိ အလောင်းမရဘဲ ဘုမေကုလားများ တိုက်ခိုက်ဆွဲယူသွားခြင်းကို ခံခဲ့ရသည်။ ဘာဆရာကုလားရွာနှင့် ထိစပ်နေသည့် အနောက်စံပြရခိုင်ရွာလည်း မီးရှို့ခံခဲ့ရပါသည်။ စစ်တွေမြို့ပတ်ပတ်လည်တွင် ဘင်္ဂလီကုလားရွာများ ဝိုင်းရံထားကြသည်။ မြို့လယ်ခေါင်တွင် အောင်မင်္ဂလာ ဘင်္ဂလီရပ်ကွက်ရှိနေသည်။ ရခိုင်ပြည်နယ် အစိုးရအဖွဲ့ရုံးနှင့်လည်း နီးကပ်စွာရှိနေသည်။ အစိုးရအဖွဲ့ရုံး၏ မြောက်ဘက်အရပ်၊ နောက်ကျောဘက်အရပ်၌ပင် ရခိုင်အိမ်တန်းများကို ဘင်္ဂလီများက မီးရှို့ခဲ့ကြရာ တစ်မြို့လုံး ပြာကျသွားမည့်အနေအထား ဖြစ်ခဲ့သည်။ ဤအခြေအနေ၊ အကြောင်းအချက်များက စစ်တွေမြို့တော် အနာဂတ်လုံခြုံရေးအတွက် ရခိုင်တိုင်းရင်းသားများနှင့် ဘင်္ဂလီမွတ်ဆလင်တို့ ရောထွေးယှက်တင်ပူးကပ်လျက် အတူယှဉ်တွဲနေထိုင်ရန် မဖြစ်နိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်။ အလားတူ လူမျိုးရေးအဓိကရုဏ်း ထပ်ဖြစ်ပွားမည်ကို အချိန်မရွေးစိုးရိမ်နေရသကဲ့သို့ မြို့တော်လုံခြုံရေး၊ အုပ်ချုပ်ရေးယန္တရား



မထိခိုက်စေရေး၊ အစိုးရအဆောက်အဦများ၊ လေဆိပ်များ၊ ရထားလမ်းများ၊ တက္ကသိုလ်များ၊ သင်္ဘောဆိပ်များ၊ ဆက်သွယ်ရေး၊ လျှပ်စစ်ရုံးများ လုံခြုံရေးအတွက် ရေရှည်အကျိုးမျှော်ကိုးပြီး စီမံဆောင်ရွက်သင့်သည်ဟု ယူဆပါသည်။ ရခိုင်ပြည်နယ်တစ်ခုလုံး လုံခြုံရေးအတွက် အထူးစဉ်းစားကြရပါမည်။

ဤအရေးအခင်းပြီးနောက် ရခိုင်တိုင်းရင်းသားများစိတ်ထဲ၌ ကျူးကျော်သူ ရိုဟင်ဂျာအမည်ခံ ဘင်္ဂလီများနှင့် ရခိုင်တိုင်းရင်းသားများ အကြား အဆုံးမသတ်နိုင်သော သွေးချောင်းစီး လူသတ်ပွဲကြီး အချိန်မရွေးထပ်ဖြစ်လာနိုင်သည်ဆိုသည့် စိုးရိမ်သောကရှိနေကြပါသည်။ ရခိုင်ပြည်နယ်ရှိ တိုင်းရင်းသားများ၏ အသက်၊ အိုးအိမ်၊ စည်းစိမ်လုံခြုံရေး အာမခံချက်ပေးနိုင်လောက်သည်အထိ ရေရှည်စဉ်းစားပြီး ဆောင်ရွက်ရမည့်ကိစ္စပင်ဖြစ်သည်။

(ခ) ရခိုင်ပြည်နယ် တည်ငြိမ်အေးချမ်းမှုကို ပျက်ပြားစေသော ပဋိပက္ခဖြစ်ပွားရသည့်အကြောင်းရင်းများ

ဗြိတိသျှခေတ်ကစ၍ ခေတ်အဆက်ဆက်တွင် တစ်ဖက်နိုင်ငံမှ တံခါးမရှိ၊ ဓားမရှိ တရားမဝင်ခိုးဝင်လာကြသည့် လူဝင်မှုစနစ်။ ဘင်္ဂလီယောကျ်ားများ မယားအမြောက်အမြားယူပြီး ကလေးအများအပြား မွေးထုတ်နေမှုများကြောင့် ရခိုင်ပြည်နယ်၌ ဘင်္ဂလီမွတ်ဆလင်များ အဆမတန်များပြား ပွက်သိပ်လာမှုသည် ပြဿနာ၏အရင်းအမြစ်ဖြစ်သည်။ အာဏာပိုင်အဆက်ဆက်က တာဝန်ရှိသူတချို့သည် နယ်စပ်လုံခြုံရေးတွင် အားနည်းခဲ့သည်။ နယ်စပ်လုံခြုံရေး တာဝန်ရှိ

ပုဂ္ဂိုလ်အချို့ အကျင့်ပျက်ခြစားမှုရှိခဲ့သည်။ ခေတ်အဆက်ဆက် ဘင်္ဂလီများ တရားမဝင်ကျူးကျော် အခြေချနေထိုင်ခဲ့ကြမှုများအပေါ် အခွင့်အရေးပေးခဲ့သည်။ ပါတီနိုင်ငံရေးအတွက် အသုံးချခဲ့ကြသည်။ ဘင်္ဂလီများ မသမာသည့်နည်းမျိုးစုံသုံးပြီး ရခိုင်ပြည်နယ်ထဲသို့ လူလိုင်းဖြင့် စိမ့်ဝင်လာကာ ဘူးသီးတောင်၊ မောင်တောနယ်ကို လူဦးရေအသာစီးဖြင့် ဆူပူအကြမ်းဖက်မှု ပဋိပက္ခများကို လုပ်ဆောင်ခြင်းဖြစ်သည်။ ပဋိပက္ခဖြစ်ပွားရသည့် အကြောင်းအရင်းမှာ ပြည်တွင်း၊ ပြည်ပရှိ မြေအောက်ရိုဟင်ဂျာအကြမ်းဖက်အဖွဲ့အစည်းများ၏ ပါဝင်လှုံ့ဆော်လှုပ်ရှားမှု၊ အစ္စလာမ်နိုင်ငံများက ပံ့ပိုးမှု၊ INGO အဖွဲ့များ၏ တစ်ဖက်သတ်ကူညီမှု၊ သတင်းဌာနများ၊ မီဒီယာများက ရိုဟင်ဂျာအမည်ခံ လိမ်လည်နေမှုကို သံယောင်လိုက်ပြီး ဘေးတီးနေမှုတို့ကြောင့်ပင် ဖြစ်ပါသည်။ ယင်းအကြောင်းအချက်များ အဓိကကျကြောင်းကို - (၁) ၈.၆.၂၀၁၂ နေ့စွဲဖြင့် 'အလ်ကာအိဒဟ်'(အယ်လ်ကိုင်ဒါ)မှ မြန်မာပြည်သို့ အသိပေးကြေညာချက်၊ (၂) ARNO က ထုတ်သည့် "MONTHLY ARAKAN" မဂ္ဂဇင်းစာစောင်များနှင့် စာစောင်ပါ အကြောင်းအရာများ၊ (၃) ၁.၈.၂၀၁၂ နေ့စွဲဖြင့် ရခိုင်ပြည်နယ်၌ "Islamic Republic of Rahmanland" အမည်ဖြင့် ရိုဟင်ဂျာလူမျိုးတို့၏ လွတ်လပ်သောပြည်နယ် (Independent State of Rohingya People) တစ်ခုအဖြစ် ကြေညာချက်တို့က သက်သေခံလျက်ရှိနေပါသည်။

ထိုစာရွက် စာတမ်း၊ စာအုပ်များသည် ဘင်္ဂလီမွတ်ဆလင်လူထုကို အကြမ်းဖက်မှုပြုလုပ်စေရန် လှုံ့ဆော်မှုများထဲမှ အဓိကအချက်များအဖြစ် ဖော်ပြခြင်းသာ ဖြစ်သည်။ အယ်လ်ကိုင်ဒါမှ မြန်မာပြည်သို့



ခြိမ်းခြောက်စာထုတ်သည့်နေ့တွင်ပင် မောင်တောမြို့၌ ပဋိပက္ခဖြစ်ပွားခဲ့သည်။

ထိုအထဲ၌ "ကျွန်ုပ်တို့ မွတ်ဆလင်များသည် အချိန်မရွေးလည် လှီးခံရနိုင်သော အိမ်မွေးကြက်များမဟုတ်ပေ။ ကျွန်ုပ်တို့၏ လမ်းပြကြယ်များသည် ကာဖရ်များထံမှ အကောက်ခွန်ယူ၍ သြဇာပြနိုင်ခဲ့သည်။ သို့သော် ဝမ်းနည်းဖွယ်ကောင်းသောအချက်မှာ ကျွန်ုပ်တို့သည် အနှိပ်စက်ခံနေရပါလျက် လက်တုံ့ပြန်မှု မရနိုင်ခြင်းဖြစ်သည်။ မည်သို့ပင်ဖြစ်စေ မြန်မာနိုင်ငံတွင်းနေထိုင်ကြသော မွတ်ဆလင်များအား အသိပေးလိုသည်မှာ ကျွန်ုပ်တို့သည် မြန်မာပြည်ရှိ နောင်တော်များနှင့် ပတ်သက်ပြီး မျက်စိမှိတ်၊ နားပိတ်နေကြမည် မဟုတ်ကြောင်း၊ အခြေအနေကောင်းမွန်လာသည်နှင့် လိုအပ်သည့်အကူအညီများအား ပေးသွားမည်ဖြစ်ကြောင်း၊ အစိုးရထံမှ တောင်းဆိုချက် ၅ ချက်ကို တောင်းဆိုထားပြီး မဆောင်ရွက်ပေးနိုင်ပါက လက်စားချေသွားမည်ဖြစ်ကြောင်း ဖော်ပြထားပါသည်။ "အဆုံးမသတ်နိုင်သော စစ်ပွဲတစ်ခုအား ရင်ဆိုင်ရမည်" ဖြစ်ကြောင်းလည်း ခြိမ်းခြောက်အသိပေးထားပါသည်။ ၄င်းတို့သည် ဤအရေးအခင်းကို (၆.၇.၂၀၁၂)သောကြာနေ့ အစ္စလာမ် ဥပုသ်နေ့တွင် လုပ်ဆောင်ရန် ကြံစည်ထားသော်လည်း တောင်ကုတ်တွင် ဖြစ်ပွားခဲ့သည့်ကိစ္စကြောင့် ချက်ချင်းဖြစ်သွားရခြင်း ဖြစ်ပါသည်။

ရိုဟင်ဂျာအမည်ခံ သောင်းကျန်းသူအဖွဲ့ ARNO က ရခိုင်ပြည်၏အမည် ARAKAN ကို အသုံးချပြီး သွေးထိုးစည်းရုံးလှုံ့ဆော်သတင်းဖြန့်သည့်စာစောင်ကို အင်္ဂလိပ်ဘာသာဖြင့် ထုတ်ဝေကာ နိုင်ငံ

တကာနှင့် ရခိုင်ပြည်နယ်ရှိ ဘင်္ဂါလီများအတွက် ဖြန့်ဝေနေပါသည်။ ရခိုင်ပြည်နယ်ကို ၎င်းတို့၏ရိုဟင်ဂျာနယ်ဟု ဖော်ပြကြသည်။ ၎င်းတို့ ARNO အဖွဲ့နှင့် OIC အဖွဲ့တို့ အမေရိကန်နိုင်ငံ၊ နယူးယော့ခ်၌ တွေ့ဆုံဆွေးနွေးမှုများကိုလည်း တွေ့ရသည်။

MONTHLY ARAKAN စာစောင် (၉.၁၀.၁၁)နေ့ထုတ်တွင် OIC သံအမတ်ကြီး (UN) H.E Ufuk Gokcen နှင့် Arakan Rohingya Union ၏ Director General D.G (ညွှန်ကြားရေးမှူးချုပ်) Wakar Uddin တို့ ရခိုင်ပြည်နယ်ရှိ ရိုဟင်ဂျာအရေးနှင့်ပတ်သက်၍ ဆွေးနွေးခဲ့ကြကြောင်း ရေးသားထားပါသည်။ ၎င်းတို့နှစ်ဦးတွေ့ဆုံသည့်ပုံလည်း ပါရှိသည်။ သတင်းဌာနများမှ ရိုဟင်ဂျာသမိုင်းလိမ်ကိုစွခဏ ခဏ ပြောနေသူဖြစ်သည်။ ရခိုင်ပြည်နယ်ကို Arakan Rohingya Union ဟု သုံးထားသည်။ ပူးတွဲတင်ပြထားပါသည်။

ရခိုင်ပြည်နယ်ငြိမ်းချမ်းရေးအတွက် ဆောင်ရွက်နေချိန်၊ ရခိုင်ပြည်နယ် ပဋိပက္ခကို စုံစမ်းစစ်ဆေးရေးကော်မရှင်ဖွဲ့ပြီး စတင်လုပ်ဆောင်နေချိန်မှာ ရိုဟင်ဂျာအမည်ခံ ဘင်္ဂါလီဘာသာရေးအစွန်းရောက်သောင်းကျန်းသူအဖွဲ့များက ရခိုင်ပြည်နယ်ကို "Islamic Republic of Ralanmanland" အဖြစ် ကြေညာသည်။ ဤအချက်များသည် ပဋိပက္ခကို ဘင်္ဂါလီများက အစီအစဉ်တကျ အကြံအစည်ဖြင့် လုပ်ဆောင်နေကြောင်း ပေါ်လွင်နေပါသည်။

နောက်ထပ် ပဋိပက္ခဖြစ်ပွားရသည့် အကြောင်းအရာတစ်ချက်မှာ ဘင်္ဂါလီများသည် ရခိုင်ပြည်နယ်တစ်ခုတည်း၌ ပိတ်လှောင်နေကြပြီး ဘင်္ဂါလီလူဦးရေထူထပ်လာကာ တစ်ဖက်၌ ရခိုင်များမှာ နေရပ်စွန့်ခွာသွားနေကြသဖြင့် ရခိုင်လူဦးရေ နည်းလာခြင်းပင် ဖြစ်သည်။ ပဋိပက္ခဖြစ်ရန် ပို၍အခွင့်သာလာသည့် အကြောင်းဖြစ်လာသည်။



(ဂ) ပဋိပက္ခချုပ်ငြိမ်းရေးအတွက် ဆောင်ရွက်သင့်သည့်အချက်များ

၁။ ရခိုင်ပြည်နယ် မြို့တော်လုံခြုံရေးနှင့် တိုင်းရင်းသားပြည်သူများ ရေရှည်ဘေးကင်းလုံခြုံရေးအတွက် ဘင်္ဂါလီများကို မြို့တွင်းမှ ခပ်ဝေးဝေးတွင် မြစ်ချောင်းများနှင့် မနီးသည့်နေရာ၌ အိမ်ခြေအကန့်အသတ်များဖြင့် သီးခြားစွာ ခွဲခြားနေရာချထားသင့်ပါသည်။

၂။ ဘင်္ဂါလီများနေထိုင်ရာနေရာများကို စောင့်ကြည့်ကွပ်ကဲနိုင်ရန် လက်နက်ကိုင်လုံခြုံရေးတပ်များ လုံလောက်စွာ ချထားသင့်ပါသည်။

၃။ စစ်တွေမြို့အပါအဝင် ရခိုင်ပြည်နယ်တစ်ခုလုံးရှိ အရေးကြီးသည့် ပင်လယ်ကမ်းခြေ ဝင်ပေါက်၊ ထွက်ပေါက်များကို ပင်လယ်ကမ်းခြေစောင့်တပ်၊ နယ်ခြားစောင့်တပ်များ ဖွဲ့ပြီး လုံလောက်စွာ ချထားသင့်ပါသည်။

၄။ မောင်တော၊ ဘူးသီးတောင်မြို့နယ်များ၌ အိမ်ခြေရာဂဏန်းရှိသော ရခိုင်တိုင်းရင်းသားရွာများ တိုးချဲ့ချထားနိုင်ရေး စီစဉ်ဆောင်ရွက်ပြီး လုံခြုံရေး၊ လမ်းပန်းဆက်သွယ်ရေး၊ ပညာရေး၊ ကျန်းမာရေးအစီအမံများ အပြည့်အဝ ဆောင်ရွက်ထားပေးသင့်ပါသည်။

၅။ အနောက်ပိုင်းတိုင်းစစ်ဌာနချုပ်က ကြီးကြပ်ကူညီမှုဖြင့်

လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဦးစီးဌာနက ဘင်္ဂါလီများအား စစ်ဆင်ရေးတစ်ရပ် အမြန်ဆုံးဆောင်ရွက်သင့်ပါသည်။ နိုင်ငံသားကတ်ရှိသူ၊ နိုင်ငံသားဖြစ်ခွင့်ရှိသူများနှင့် နိုင်ငံသားကတ်မရှိသူ၊ နိုင်ငံသား လုံးဝမဖြစ်ထိုက်သူတို့ကို စနစ်တကျခွဲခြားပြီး မှတ်တမ်းတင် စာရင်းပြုစုထားသင့်ပါသည်။ နိုင်ငံသားမဟုတ်သူများကို သီးခြားတစ်နေရာ၌ ထားရှိပြီး တတိယနိုင်ငံတစ်ခုသို့ဖြစ်စေ၊ OIC နိုင်ငံများသို့ဖြစ်စေ ပို့သင့်ပါသည်။ ၎င်းနိုင်ငံများမှာလည်း လူသားချင်း စာနာစိတ်၊ လူ့အခွင့်အရေးကို တန်ဖိုးထားသောစိတ်၊ ဘာသာအယူဝါဒတူသူချင်း တန်ဖိုးထားသောစိတ်ဖြင့် ခွဲဝေလက်ခံသင့်ပါသည်။

၆။ နိုင်ငံအပေါ် သစ္စာရှိစိတ်၊ ရိုးသားသောစိတ်ဖြင့် လူဝင်မှုစနစ်ကို မှန်မှန်ကန်ကန်၊ ပြတ်ပြတ်သားသား၊ ထိထိရောက်ရောက်ဖြင့် ခိုးဝင်၊ ခိုးထွက်မှုကို တားဆီးကန့်သတ်နိုင်ရေး ဆောင်ရွက်သင့်ပါသည်။

၇။ ဘင်္ဂါလီမွတ်ဆလင်များ၏ လိမ်ညာလုပ်ကြံဖန်တီးထားသည့် ရိုဟင်ဂျာလူမျိုးလိမ်ဝေါဟာရကို လုံးဝဖျောက်ဖျက်ကြရပါမည်။ မိမိတို့နေထိုင်သောနိုင်ငံ၊ ယှဉ်တွဲနေသော တိုင်းရင်းသားလူမျိုးများအပေါ် သစ္စာရှိရန်၊ လေးစားတန်ဖိုးထားရန်နှင့် ရိုးသားဖြောင့်မှန်သည့်စိတ် ရှိကြရန် လိုအပ်မည်ဖြစ်သည်။ ယခုအခြေအနေတွင် ယုံကြည်မှုတည်ဆောက်ရန်များစွာခက်ခဲနေသည်။



၈။ ဘင်္ဂါလီမွတ်ဆလင်များကို နိုင်ငံသား၊ နိုင်ငံသားမဟုတ်သူဟူ၍ တည်ဆဲဥပဒေနှင့်အညီ ခွဲခြားဖော်ထုတ်ဆုံးဖြတ်ပြီး နိုင်ငံသားမဟုတ်သူများ၏ လယ်ယာပိုင်ဆိုင်မှုများ၊ လုပ်ငန်းပိုင်ဆိုင်မှုများကို အားလုံးရပ်စဲ သိမ်းဆည်းသင့်ပါသည်။

၉။ စစ်တွေမြို့ပေါ် ရပ်ကွက်များရှိ မီးလောင်မြေများ၌ ဘင်္ဂါလီများကို ပြန်လည်နေရာချထားပါက အဓိကရုဏ်းပြဿနာ ပြန်လည်ဖြစ်ပေါ်ရန် သေချာပါသည်။ ၎င်းနေရာများ၌ ပန်းခြံ၊ စက်မှုဇုန်၊ တက္ကသိုလ်၊ ဝန်ထမ်းအိမ်ရာ၊ မြို့တော်ခန်းမ၊ အဆင့်မြင့်စာကြည့်တိုက်၊ မီးသတ်စခန်း၊ လုံခြုံရေးစခန်း စသည်ဖြင့် သင့်လျော်သလိုပြောင်းလဲဖော်ဆောင်သင့်ပါသည်။

၁၀။ အောင်မင်္ဂလာရပ်ကွက်သည် စစ်တွေတက္ကသိုလ်(ဟောင်း)၊ ပြည်နယ်အစိုးရအဖွဲ့ရုံးနှင့် ရခိုင်လူနေရပ်ကွက်များအလယ်၌ အချိန်မရွေးပေါက်ကွဲနိုင်သည့် ဗုံးတစ်လုံးသဖွယ် ဖြစ်နေပါသည်။ နှစ်ဖက်စလုံး အန္တရာယ်ရှိနိုင်သည့်အနေအထားတွင် ရှိနေပါသည်။ သို့ဖြစ်၍ အောင်မင်္ဂလာရပ်ကွက်မှ ဘင်္ဂါလီများကို သင့်တော်ရာနေရာများကို ပြောင်းရွှေ့နေထိုင်ခွင့် ပြုသင့်ပါသည်။

၁၁။ လေဆိပ်ပတ်ဝန်းကျင်နှင့် စစ်တွေတက္ကသိုလ်ပတ်ဝန်းကျင်ရှိ ဘင်္ဂါလီရပ်ကွက်များကိုလည်း သင့်တော်သည့်နေရာများသို့ ပြောင်းလဲနေထိုင်ခွင့် ပြုသင့်ပါသည်။ နည်းပညာတက္ကသိုလ်နှင့် ကွန်ပျူတာတက္ကသိုလ်တို့ကို စစ်တွေဝိဇ္ဇာသိပ္ပံတက္ကသိုလ်နှင့် အလှမ်းမဝေးသည့်နေရာသို့ ပြောင်းရွှေ့ဖွင့်လှစ်သင့်ပါသည်။

၁၂။ ရခိုင်ပြည်နယ်ထဲ၌ လှောင်ပိတ်နေသည့်ဘင်္ဂလီများကို တခြားနိုင်ငံများက လက်ခံလိုခြင်းမရှိပါက ပြည်မဘက်သို့ ထွက်ခွာခွင့်ပြုသင့်ပါသည်။

၁၃။ တရားမဝင်ဖွင့်လှစ်ထားသည့် အာရဗီစာသင်ကျောင်းများအားလုံးကို အမြန်ဆုံး ပိတ်သင့်ပါသည်။

၁၄။ INGOs/NGOs အဖွဲ့အစည်းများသည် ဘင်္ဂလီများကိုသာ တစ်ဖက်သတ်တစိုက်မတ်မတ် ထောက်ပံ့ပေးကမ်းကူညီလာကြသည်မှာ ဆယ်စုနှစ်များ ချီလာပြီဖြစ်ပါသည်။ မွဲတေဆင်းရဲကြသည်မှာ ရခိုင်သားများ ပို၍ပင် ဆိုးရွားကြပါသေးသည်။ သို့သော် နိုင်ငံတကာအကူအညီကို မည်သည့်အခါကမျှ တစ်ပြားတစ်ချပ်မျှ မရခဲ့ကြ။

INGOs/NGOs များသည် ဘင်္ဂလီမွတ်ဆလင်များအား ဆယ်စုနှစ်ချီ၍ ကူညီပေးလာကြသော်လည်း သူတို့မှာ အတွေးအခေါ်ဉာဏ်ပညာ၊ လူသားစိတ်ဓာတ်များ စိုးစဉ်းမျှမရှိဘဲ ဝိသမလောဘစိတ်၊ အကြမ်းဖက်စိတ်၊ အယူသည်းစိတ်များသာ မြင့်မားလာကြသည်ကို တွေ့ရသဖြင့် သက်ဆိုင်ရာဒေသအာဏာပိုင်များသည် INGO များက တိုက်ရိုက်ပေးကမ်းထောက်ပံ့နေမှုကို ကန့်သတ်ထိန်းချုပ်ကာ စီမံဆောင်ရွက်သင့်ပါသည်။

၁၅။ နယ်စပ်ဆက်သွယ်ရေးလမ်းများ (မယူတောင်အရှေ့ခြမ်း၊ အနောက်ခြမ်းလမ်းများ၊ စစ်တွေမြို့နယ်အနောက်ခြမ်းပင်လယ်ကမ်းခြေပတ်လမ်း၊ အနောက်ဖရုံကာတောင်တန်း၊ အနောက်ပင်လယ်ကမ်းခြေတစ်လျှောက် လမ်းများကို အချိန်မရွေး ယာဉ်များ ကောင်းမွန်စွာဖြတ်သန်းသွားလာနိုင်သည့် အမာခံလမ်းများအဖြစ် ဖောက်လုပ်သင့်ပါသည်။ လိုအပ်သည့် သင့်လျော်သောနေရာများ၌ လုံခြုံရေးစခန်းများ လုံလောက်စွာ ချထားသင့်ပါသည်။



၁၆။ ဘူးသီးတောင်၊ မောင်တော၊ ရသေ့တောင်မြို့နယ်များ၌ ရခိုင်တိုင်းရင်းသားကျေးရွာများတွင် လက်နက်ကိုင် ပြည်သူ့စစ်တပ်ဖွဲ့များ၊ နယ်ခြားစောင့်တပ်ဖွဲ့များ ချထားပေးသင့်ပါသည်။

၁၇။ ပြစ်မှုကျင့်ထုံးပုဒ်မ-၁၄၄ ထုတ်ပြန်ထားသည့်အမိန့်ကို တဖြည်းဖြည်းလျှော့ချထားသင့်ပြီး အရေးပေါ်အခြေအနေကြေညာထားသည့်အမိန့်ကို ရေရှည်အတွက် ဆက်လက်ထားရှိသင့်ပါသေးသည်။

၁၈။ ရခိုင်ပြည်နယ်သို့ အရက်မျိုးစုံ အလွယ်တကူ တင်ပို့ရောင်းချနေမှုများကို ထိန်းကွပ်ပြီး ဥပဒေနှင့်အညီ ဆောင်ရွက်သင့်ပါသည်။

(ဃ) ကွဲပြားသောအယူဝါဒရှိသူ၊ မတူညီသည့် လူမျိုးစုများအကြား ငြိမ်းချမ်းစွာ အတူယှဉ်တွဲနေထိုင်နိုင်မည့်နည်းလမ်းများ

၁။ ရခိုင်ပြည်နယ် ပဋိပက္ခများ စုံစမ်းစစ်ဆေးရေးကော်မရှင်အား စုံစမ်းစစ်ဆေးရန် သတ်မှတ်ထားသည့် အချက်များအနက် နံပါတ်စဉ် (စ)ပါ အချက်တစ်ချက်ဖြစ်ပါသည်။

ဖော်ပြပါခေါင်းစဉ်၌ "ကွဲပြားသောအယူဝါဒရှိသူ" ဟူသော

အချက်နှင့် "မတူညီသော လူမျိုးစုများ" ဟူသောအချက် (၂)ချက်ကို တွေ့ရပါသည်။

"ကွဲပြားသောအယူဝါဒရှိသူ"နှင့်ပတ်သက်၍ သုံးသပ်ရလျှင် ရခိုင်တိုင်းရင်းသားအားလုံးသည် ထေရဝါဒဗုဒ္ဓဘာသာကို ကိုးကွယ်ကြသည်။ ဗုဒ္ဓဘာသာ၌ လူသားအချင်းချင်းကိုထားဦး တိရစ္ဆာန်၊ ပိုးမွှားများကို သတ်ဖြတ်ခြင်းကိုပင် ခွင့်မလွှတ်ဘဲ တားမြစ်ထားပါသည်။ ကျွဲ၊ နွားတိရစ္ဆာန်ကိုထားဦး ကြက်ကလေး၊ ငှက်ကလေးတစ်ကောင်ကို သတ်ဖို့အရေးကိုပင် ဝန်လေးကြပါသည်။ ဗုဒ္ဓဝါဒ၌ လူသားချင်း စာနာထောက်ထား၊ သနားသည့်စိတ်ဓာတ်ကို အခြေခံထားသဖြင့် ရခိုင်မြေ၌ ဘင်္ဂလီများ ယခုကဲ့သို့အဆမတန် ဝင်ရောက်အခြေချကာ လယ်ယာစီးပွားလုပ်ကိုင်ခွင့် ရရှိသွားခဲ့ကြခြင်းပင် ဖြစ်ပါသည်။ သို့သော် အယူဝါဒမတူ၊ ယဉ်ကျေးမှုမတူ၊ ဘာသာစကားမတူ၊ နေထိုင်မှု ဓလေ့ထုံးတမ်းမတူ၊ အထူးသဖြင့် အကျင့်စရိုက်မတူသူများနှင့် ယှဉ်တွဲနေထိုင်ကြရာ၌ အဆင်မပြေမှု များစွာရှိပါသည်။ သူတစ်ပါးနိုင်ငံ၌ လာရောက်နေထိုင်ကြသည့် ဧည့်သည်များက အိမ်ရှင်လူမျိုးများ၏ အယူဝါဒ၊ ဓလေ့စရိုက်၊ ယဉ်ကျေးမှုပုံစံတို့အပေါ် အလေးထားကြရမည်ဖြစ်သည်။ သမာသမတ်ကျစွာနေထိုင်တတ်ရမည်။ ရခိုင်ပြည်နယ်ထဲ၌ ခရစ်ယာန်ဘာသာ ကိုးကွယ်ကြသည့် ချင်း၊ ခမီတိုင်းရင်းသားများ၊ ဗုဒ္ဓဘာသာကိုးကွယ်ကြသည့် ချင်း၊ ခမီတိုင်းရင်းသားများ၊ အင်္ဂလိပ်ခေတ်ကတည်းက နေထိုင်လာကြသည့် တရုတ်လူမျိုးများ၊ ဟိန္ဒူလူမျိုးများ စသည်ဖြင့် ကွဲပြားသောအယူဝါဒများ ရှိနေကြပါသည်။ မည်သည့်အခါကမျှ မည်သူနှင့်မျှ ပြဿနာမဖြစ်ဖူး။ ယခုကဲ့သို့



တစ်ဖက်နှင့်တစ်ဖက် ခိုက်ရန်ဖြစ်ပွားသည်ဟူ၍ တစ်ခါမျှမရှိဖူးပေ။ ဘင်္ဂလီမွတ်ဆလင်များနှင့်သာ ယခုကဲ့သို့ မကြာခဏ ဖြစ်နေကြရခြင်း ဖြစ်သည်။

၂။ "မတူညီသောလူမျိုးစုများ"ဆိုရာ၌ ပြောစရာရှိပါသည်။ ရခိုင်သည် လူမျိုးတစ်မျိုးဖြစ်ပါသည်။ တစ်ချိန်က ကိုယ့်ပြည်၊ ကိုယ့်ထီး၊ ကိုယ့်နန်း၊ ကိုယ်ပိုင်ယဉ်ကျေးမှု၊ စာပေတို့နှင့် နေထိုင်လာခဲ့ခြင်း ဖြစ်သည်။ လူမျိုးစုနှင့် လူမျိုး ကွာခြားမည်ထင်ပါသည်။ မတူညီသော လူမျိုးများအကြား၌လည်း အထက်ပါအတိုင်းဖြစ်ပါသည်။ ငြိမ်းချမ်းစွာ အတူတကွ ယှဉ်တွဲနေထိုင်ရန်မှာ ဧည့်သည်က ကောင်းမွန်စွာ၊ ရိုးသားယဉ်ကျေးစွာ နေထိုင်ရန် အဓိကလိုအပ်မည်ဖြစ်ပါသည်။ ဧည့်သည်က အိမ်ရှင်ကိုနှင်ထုတ်ပြီး အိမ်နှင့်ခြံကို အပိုင်သိမ်းလိုစိတ်ဖြင့် ကောက်ကျစ်စဉ်းလဲစွာ ကြံစည်လုပ်ဆောင်နေသမျှ အိမ်ရှင်မှာ မလွဲသာ၍သာ အတူယှဉ်တွဲနေထိုင်နေရသည်မှန်သော်လည်း နယ်မြေငြိမ်းချမ်းသာယာမှု ရနိုင်မည်မဟုတ်ဟု သုံးသပ်ရပါသည်။ ဒီမိုကရေစီထွန်းကားသည့် အမေရိကန်နိုင်ငံကဲ့သို့သော နိုင်ငံကြီးများတွင်လည်း ဤအတိုင်းပင် ရှိပါမည်။ မိမိနိုင်ငံ၊ မိမိပိုင်နယ်မြေကို မိမိနိုင်ငံ၌ လာရောက်နေထိုင်သည့် မည်သည့်လူမျိုး၊ မည်သည့်နိုင်ငံသားများကိုမှ ခွဲဝေဖဲ့ထုတ်ပေးမည် မဟုတ်ပါ။ ဘင်္ဂလီမွတ်ဆလင်ပြဿနာနှင့် ရခိုင်ပြည်နယ်အနာဂတ် ရေးမှာ "ဆုပ်လျှင်ရှူး၊ စားလျှင်ရူး"အခြေဆိုက်နေပါပြီ။ သို့ဖြစ်၍ သီးခြားနေထိုင်ခြင်းကသာ အဆင်ပြေမည်ဟု ယူဆပါသည်။

(င) ဥပဒေစိုးမိုးရေးအကြံပြုချက်များ

၁။ နိုင်ငံတော်၏ တာဝန်အရေးသုံးပါးဖြစ်သည့် ပြည်ထောင်စု မပြိုကွဲရေး၊ တိုင်းရင်းသားစည်းလုံးညီညွတ်မှု မပြိုကွဲရေး၊ အချုပ်အခြာအာဏာ တည်တံ့ခိုင်မြဲရေးတို့အတွက် မရှိမဖြစ်လိုအပ်သည့်အရာမှာ ဥပဒေစိုးမိုးရေးဖြစ်ပါသည်။ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်တွင် မရှိခဲ့ဖူးသော ရိုဟင်ဂျာလူမျိုးလိမ်ကို စင်တင်ပြီး "တိုင်းရင်းသားအခွင့်အရေး"ကို လွှတ်တော်အထိတောင် တင်ပြတောင်းဆိုနေမှု၊ ရခိုင်ပြည်နယ်ကို "အစ္စလာမ်မစ်ရိုဟင်ဂျာနိုင်ငံ" ထူထောင်ရန် ကြေညာကြံစည်နေမှု၊ ပြည်တွင်း၊ ပြည်ပ၊ မြေပေါ်၊ မြေအောက် အစွန်းရောက်ဘင်္ဂလီမွတ်ဆလင်များက ကွန်ယက်ဖြင့် ဆက်သွယ်ပြီး အတွင်း၊ အပြင် အနုနည်း၊ အကြမ်းနည်းမျိုးစုံဖြင့် လှုပ်ရှားဆောင်ရွက်နေမှုများသည် ပြည်ထောင်စုပြိုကွဲရေး၊ တိုင်းရင်းသားစည်းလုံးညီညွတ်မှု ပြိုကွဲရေးကို ဦးတည်နေသည်ဟု ယူဆရပါသည်။ နိုင်ငံတော် အချုပ်အခြာအာဏာကို ခြိမ်းခြောက်နေသည်ဟု ယူဆရပါသည်။ ပြည်ပ၌ ပြည်ထောင်စု မြန်မာနိုင်ငံတော်အလံအား အစ္စလာမ်ဘာသာကိုးကွယ်သူများက မီးရှို့မှု၊ နိုင်ငံတော်သမ္မတပုံကို ယုတ်ညံ့စွာပျက်ရယ်ပြုမှုစသည်တို့သည် ပြည်တွင်း၊ ပြည်ပရှိ ရိုဟင်ဂျာအမည်ခံ လှုပ်ရှားသူများ၏ မဟုတ်မမှန် ချဲ့ကားပြီး သတင်းပေးပြောဆိုနေမှု၊ မဟုတ်မမှန်သည့် မှတ်တမ်းဓာတ်ပုံများကို အင်တာနက်ဝက်ဘ်ဆိုက်များမှ တင်ပြလှုံ့ဆော်မှုများကြောင့် ဖြစ်ပါသည်။

၂။ ရိုဟင်ဂျာအမည်ခံ ဘင်္ဂလီများသည် နိုင်ငံသားမဟုတ်ကြောင်း နိုင်ငံတော်အစိုးရက လူသိရှင်ကြား ကြေညာထားပြီးဖြစ်ပါသည်။



သို့သော် တချို့ဘင်္ဂလီများသည် ရခိုင်ပြည်နယ်ရှိ တိုင်းရင်းသားများအဖြစ် အသိအမှတ်ပြုခံထားရသည့် ကမန်၊ မရမာကြီးစသည့် လူမျိုးစုများကို အသုံးချပြီး နိုင်ငံသားကတ်ရရှိရေးကို ဥပဒေနှင့်မညီဘဲ လိမ်လည်ပြုလုပ်ခဲ့ကြပါသည်။ ပြုလုပ်နေကြဆဲလည်းဖြစ်ပါသည်။ နိုင်ငံတကာတွင် နိုင်ငံသားအရည်အချင်းပြည့်မီရန် စံနှုန်းသတ်မှတ်ချက်များရှိပါသည်။ ဒုက္ခသည်လူမျိုးစုတစ်စုကို ပြည်နယ်ပေး၍ လူမျိုးစု ထူထောင်ခွင့် အခွင့်အရေးကို ကမ္ဘာမှာ မည်သည့်နိုင်ငံတွင်မှ ပေးမည်မဟုတ်ပေ။ "၁၉၈၂ ခုနှစ်၊ မြန်မာနိုင်ငံသားဥပဒေ"သည် တည်ဆဲဥပဒေဖြစ်သည်။ ဥပဒေစိုးမိုးရေးအတွက် အုပ်ချုပ်ရေး အာဏာပိုင်အဖွဲ့အစည်းများ၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဦးစီးဌာနတို့က မြန်မာနိုင်ငံသား ဥပဒေအတိုင်း အတိအကျပြတ်သားစွာ အကောင်အထည်ဖော် ဆောင်ရွက်သင့်ပါသည်။ ၁၉၅၁ ခုနှစ်၊ ပြည်ထောင်စုမြန်မာနိုင်ငံအတွင်း နေထိုင်သူများမှတ်ပုံတင်ရေး နည်းဥပဒေ (၆)၌ "မြန်မာနိုင်ငံအတွင်းနေထိုင်သူသည် မှတ်ပုံတင်ရန် လိုအပ်သည့်အချက်အလက်များကို မှတ်ပုံတင်အရာရှိအား မှန်ကန်စွာ ပေးရမည်"ဟု ပြဋ္ဌာန်းထားပါသည်။ ရိုဟင်ဂျာအမည်ခံ ဘင်္ဂလီမွတ်ဆလင်တချို့က ကိုယ်ရေးအချက်အလက်များကို မှန်ကန်စွာ မပေးဘဲ "ကမန်၊ မရမာကြီး"အမည်ခံကာ နိုင်ငံသားကတ်ရယူနေသူများ သည် ဥပဒေကို ချိုးဖောက်နေမှုများပင် ဖြစ်ပါသည်။

မောင်တောမှ ဒေါက်တာထွန်းအောင်မှာ မရမာကြီးအမည်ခံပြီး နိုင်ငံသားကတ်ကို လိမ်လည်ပြုလုပ်ထားသည့်အတွက် တရားစွဲဆိုခံထားရသည်။ လွှတ်တော်အသီးသီး၌ နိုင်ငံသားအဖြစ် အသိအမှတ်

ပြုခဲ့ပြီး အမတ်အဖြစ် ရွေးချယ်ခံထားကြသည့် ရိုဟင်ဂျာအမည်ခံ ဘင်္ဂလီမွတ်ဆလင်အမတ်များ၏ နိုင်ငံသားကတ်များကို အရေးတကြီး စိစစ်ရန် လိုအပ်မည်ဟု ယူဆပါသည်။ တည်ဆဲဥပဒေကို ချိုးဖောက်မှု ရှိပါက ဥပဒေအရ ပြတ်သွားစွာအရေးယူရမည်ဖြစ်ပါသည်။ တခြား ဘင်္ဂလီမွတ်ဆလင်များကိုလည်း စိစစ်ရန် လိုအပ်နေပါပြီ။

၃။ နိုင်ငံသားဖြစ်မှု၊ ပြုမှုတို့သည် နိုင်ငံတော်၏အချုပ်အခြာ အာဏာနှင့် စပ်ဆိုင်သောကိစ္စဖြစ်သည်။ ဥပဒေဖြင့် တိကျပြတ်သားစွာ ပြဋ္ဌာန်းရမည်သာ ဖြစ်သည်။ ၁၉၈၂ ခုနှစ်တွင် ပြဋ္ဌာန်းသော "မြန်မာ နိုင်ငံသားဥပဒေ"မှာ တည်ဆဲဥပဒေဖြစ်သည်။ ၎င်းဥပဒေပုဒ်မ- ၁၈၌ "နိုင်ငံသားတစ်ဦးသည် မဟုတ်မှန် ဖော်ပြခြင်း (သို့) ဖုံးကွယ် ခြင်းဖြင့် နိုင်ငံသားအဖြစ်ကိုရရှိပါက နိုင်ငံသားအဖြစ်မှ ရုပ်သိမ်းခံရ မည့်အပြင် ထောင်ဒဏ်တစ်ဆယ်နှစ်နှင့် ဒဏ်ငွေကျပ်ငါးသောင်းကို လည်း ကျခံစေရမည်"ဟု ပြဋ္ဌာန်းထားပါသည်။ ဘင်္ဂလီမွတ်ဆလင် တစ်ဦးဦးက ဘင်္ဂလီမွတ်ဆလင်ဖြစ်သည်မှာ မှန်လျက် ဖုံးကွယ်ပြီး "ကမန်ရမည်"ဟု ပြဋ္ဌာန်းထားပါသည်။ ဘင်္ဂလီမွတ်ဆလင်တစ်ဦးဦး က ဘင်္ဂလီမွတ်ဆလင်ဖြစ်သည်မှာ မှန်လျက် ဖုံးကွယ်ပြီး "ကမန် လူမျိုး၊ မရမာကြီးလူမျိုး" စသည်ဖြင့် မဟုတ်မမှန်ဖော်ပြပြီး နိုင်ငံသား အဖြစ်ကို ရရှိထားပါက ဤပုဒ်မနှင့် ငြိစွန်းနိုင်မည်ဖြစ်ပါသည်။

ထို့အတူ နိုင်ငံသားလက်မှတ် (သို့) ဧည့်နိုင်ငံသားလက်မှတ် (သို့) နိုင်ငံသားပြုခွင့်လက်မှတ် တစ်ခုခုကို တစ်စုံတစ်ဦးအား ရရှိ စေရန် နိုင်ငံသားတစ်ဦးက အားပေးကူညီလျှင် ထောင်ဒဏ် ၇ နှစ်နှင့် ငွေဒဏ်ကျပ်တစ်သောင်း ကျခံစေရမည် ဖြစ်သည်။ ဥပဒေစိုးမိုးရေး



အတွက် မြန်မာနိုင်ငံသားဥပဒေအတိုင်း စိစစ်ဖော်ထုတ် အရေးယူ ဆောင်ရွက်သင့်ပါသည်။

၄။ ၁၉၄၉ ခုနှစ် ပြည်ထောင်စုမြန်မာနိုင်ငံအတွင်း နေထိုင်သူ များ မှတ်ပုံတင်ရေးအက်ဥပဒေ ပုဒ်မ-၆ တွင်လည်း (က) ဤအက် ဥပဒေပါ ကိစ္စများအလို့ငှာ အကြောင်းအရာတစ်ခုခုကို ဖော်ပြရာ၌ သိလျက်နှင့်ဖြစ်စေ၊ အရမ်းမဲ့ဖြစ်စေ အရေးကြီးသောအချက်၌ မဟုတ် မမှန်သော အကြောင်းအရာတစ်ခုခုကို ဖော်ပြလျှင် (ခ) လိမ်ရန်အကြံ ဖြင့် (၁) မဟုတ်မမှန်ဖော်ပြလျှင်၊ (၂) အခြားသူတစ်ဦးအား လက်ရှိ ထားခွင့်ပြုလျှင်၊ (၃) သက်သေခံကတ်ကို ဆင်တူယိုးမှားပြုလျှင် ဤအက်ဥပဒေအရ ပြစ်မှုကျူးလွန်သူဖြစ်သည်။ မည်သူမဆို ဤဥပဒေကိုလိုက်နာရန် ပျက်ကွက်လျှင်၊ နည်းဥပဒေကို မလိုက်နာ လျှင်၊ ကျူးလွန်လျှင် ဤဥပဒေပုဒ်မ-၆(၃)အရ ထောင်ဒဏ် ၂ နှစ် ကျခံနိုင်ပါသည်။ ဤဥပဒေကို ဖောက်ဖျက်မှုအတွက် ဘင်္ဂလီများကို ရခိုင်ပြည်နယ်တွင် အမြဲတမ်းလိုလို အပြစ်ပေးနေကြရပါသည်။ ဤ ဥပဒေသည် ပြည်ထောင်စုမြန်မာနိုင်ငံတစ်ဝန်းလုံးတွင် အာဏာ သက် ရောက်ရန် လိုအပ်မည်ဖြစ်ပါသည်။ ဤဥပဒေပုဒ်မ-၁(၂)၌ "ဤ ဥပဒေသည် နိုင်ငံတော်သမ္မတက အမိန့်ကြေညာစာ ထုတ်ပြန်သတ် မှတ်သည့်နေ့မှ စတင် အာဏာတည်ပြီး သတ်မှတ်ဒေသများတွင် အာဏာတည်သည်"ဟု ပြဋ္ဌာန်းထားပါသည်။ ရခိုင်ပြည်နယ်၌ "မြန်မာနိုင်ငံ အမိန့်ပြန်တမ်း"ထုတ်ပြန်ထားသည့် စစ်တွေ၊ ဘူးသီး တောင်၊ မောင်တော၊ ရသေ့တောင်မြို့နယ်များ၌သာ အာဏာတည်ပြီး ကျန်မြို့နယ်များ၌ အာဏာမတည်သလို ဖြစ်နေပါသည်။

၅။ ရခိုင်ပြည်နယ်၌ သက်ဆိုင်ရာက နိုင်ငံသား၊ ဧည့်နိုင်ငံသား၊ နိုင်ငံသားပြုခွင့်ရသူ၊ နိုင်ငံခြားသား စသည်တို့ကို ပြတ်ပြတ်သားသား စစ်ဆင်ရေးပြုလုပ်စိစစ်ရန် အမြန်ဆုံး လိုအပ်နေပြီဖြစ်ပါသည်။ နိုင်ငံသား မဟုတ်သော ရိုဟင်ဂျာဆိုသူများကို OIC (သို့) တတိယ နိုင်ငံတစ်ခုခု (သို့) UNHCR တို့က တာဝန်ယူနိုင်ရန် ကြိုးပမ်းဆောင် ရွက်ရပါမည်။ မည်သူကမျှ လက်မခံပါက တည်ဆဲဥပဒေများဖြင့် ထိရောက်စွာ အရေးယူဆောင်ရွက်သင့်ပါသည်။ နိုင်ငံခြားသား မှတ်ပုံ တင်ရေးအက်ဥပဒေ၊ ၁၉၄၇ ခုနှစ်၊ မြန်မာနိုင်ငံလူဝင်မှုကြီးကြပ်ရေး (လတ်တလောပြဋ္ဌာန်းချက်များ) အက်ဥပဒေတို့အရ အရေးယူရပါမည်။

၁၉၄၇ ခုနှစ် မြန်မာနိုင်ငံလူဝင်မှုကြီးကြပ်ရေး (လတ်တလော ပြဋ္ဌာန်းချက်များ)အက်ဥပဒေ ပုဒ်မ-၃(၁)၌ "မည်သည့်နိုင်ငံခြားသား မျှ ပြည်ဝင်ခွင့်ပါမစ်၊ တရားဝင်ပတ်စ်ပို့၊ ဗီဇာမပါဘဲ နိုင်ငံတွင်းသို့ မဝင်ရ" ဟု ပြဋ္ဌာန်းထားပြီး ၄င်းဥပဒေပုဒ်မ-၃(၂)၌ "မည်သည့် မြန်မာနိုင်ငံသားမျှ တရားဝင်ပတ်စ်ပို့၊ သက်သေခံလက်မှတ်မပါဘဲ နိုင်ငံအတွင်းသို့ မဝင်ရ"ဟုလည်း ပြဋ္ဌာန်းထားပါသည်။

ဤဥပဒေပြဋ္ဌာန်းချက်များကို ကျူးလွန်ဖောက်ဖျက်ပါက ၄င်း ဥပဒေပုဒ်မ-၁၃(၁)အရ ထောင်ဒဏ် ၆ လမှ ၅ နှစ်ထိ ချမှတ်နိုင်ပါ သည်။ ဤဥပဒေအရ အရေးယူပြစ်ဒဏ်ချမှတ်ထားရသည့် ဘင်္ဂါလီ မွတ်ဆလင်များမှာ နှစ်စဉ် ထောင်နှင့်ချီ၍ ရှိနေပါသည်။ ရခိုင်ပြည်နယ် အတွင်းရှိ မြို့နယ်တရားရုံးများ၌ စစ်တမ်းကောက်ယူပါက သိနိုင်ပါ သည်။ ဥပဒေမဲ့ တရားမဝင် ခိုးဝင်၊ ခိုးထွက်နေမှုကို ဤဥပဒေအရ အရေးယူနေရသည့်မှတ်တမ်းများက သက်သေခံနေပါလိမ့်မည်။



၁၉၄၇ ခုနှစ်၊ လူဝင်မှုကြီးကြပ်ရေးဥပဒေ၊ နည်းဥပဒေများ နှင့် ဆန့်ကျင်၍ မည်သူမဆို မြန်မာနိုင်ငံတွင်းသို့ ဝင်လာနိုင်ရန် နိုင်ငံခြားသားကိုသိလျက်နှင့် နိုင်ငံတွင်း၌နေစေရန် တမင်ကူညီလျှင် (သို့) ကူညီရန်အားထုတ်လျှင် အနည်းဆုံး ၆လမှ အများဆုံး ၅နှစ်ထိ ထောင်ဒဏ်ချမှတ်ခြင်း ခံရနိုင်ပါသည်။ (၄င်းဥပဒေပုဒ်မ-၁၃(၅))

ဤဥပဒေသည် ၁၉၄၇ ခုနှစ်ကပင် ပြဋ္ဌာန်းခဲ့သော ဥပဒေ ဖြစ်ပါသည်။ ဥပဒေသက်တမ်း ၆၅ နှစ်ရှိပါပြီ။ ဤဥပဒေပုဒ်မ - ၁၃(၅)အရ မည်ရွေ့မည်မျှ အရေးယူခဲ့ပြီးပြီလဲ။ နိုင်ငံခြားသား ဘင်္ဂါလီ မွတ်ဆလင်များကို နိုင်ငံခြားသားမှန်းသိလျက်နှင့် မရေမတွက်နိုင်အောင် နိုင်ငံတွင်း၌နေစေခဲ့ကြသည်။ တမင်ကူညီခဲ့ကြသည်။ တရားဥပဒေ မည်မျှစိုးမိုးခဲ့ပါသလဲ။ ၄င်းဥပဒေပုဒ်မ-၁၃(၁)၊ ၁၃(၂) တို့အရ ကျူးလွန်သူများကို အရေးယူအပြစ်ပေးမှုရှိနေသော်လည်း မြန်မာနိုင်ငံ တွင်းသို့ နိုင်ငံခြားသားများ ဝင်လာနိုင်စေရန် တမင်ကူညီသူ၊ ကူညီရန် အားထုတ်သူများကို ဤဥပဒေက ထိရောက်စွာ မစိုးမိုးနိုင်စေခဲ့ဟု သုံးသပ်မိပါသည်။

၆။ ၂၀၀၈ ခုနှစ် နိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေ ပုဒ်မ-၃၈၇ တွင် "နိုင်ငံသားတိုင်းသည် ပြည်ထောင်စုစိတ်ဓာတ်ကို အခြေခံ၍ တိုင်းရင်းသားလူမျိုးအချင်းချင်း စည်းလုံးညီညွတ်ရေးနှင့် ပြည်သူလူထု တစ်ရပ်လုံး အေးချမ်းသာယာရေးတို့အတွက် ကြိုးပမ်းအားထုတ် ဆောင်ရွက်ရန် တာဝန်ရှိပါသည်"ဟု ပြဋ္ဌာန်းပါရှိပါသည်။

ပြည်သူက ရွေးကောက်တင်မြှောက်ထားသော လွှတ်တော် အမတ်များသည် ဖော်ပြပါနိုင်ငံသားတစ်ဦး၏တာဝန်ကို ပို၍ သိရှိ

လိုက်နာရမည်ဖြစ်ပါသည်။ လွှတ်တော်ညီလာခံတက်ရောက်နေကြသည့် ဘင်္ဂလီမွတ်ဆလင်အမတ် ရွှေမောင်နှင့် အပေါင်းပါတို့ကို လွှတ်တော်တွင် မြန်မာနိုင်ငံ၌ လူမျိုးတစ်မျိုးအနေဖြင့် မရှိသည့် ရိုဟင်ဂျာအမည်ကို ထပ်တလဲလဲသုံးနှုန်းပြီး ရိုဟင်ဂျာတိုင်းရင်းသား အခွင့်အရေးတောင်းဆိုနေမှုများသည် နိုင်ငံတော်ဖွဲ့စည်းပုံ အခြေခံဥပဒေကိုလည်းကောင်း၊ မြန်မာနိုင်ငံသားဥပဒေအပါအဝင် တည်ဆဲဥပဒေများကိုလည်းကောင်း ဖောက်ဖျက်ကျူးလွန်နေကြခြင်း ဖြစ်ပါသည်။ လွှတ်တော်ကိုယ်စားလှယ်တစ်ဦး၊ နိုင်ငံသားတစ်ဦး၏ ကျင့်ဝတ်ပျက်ယွင်းကြသူများအဖြစ် ယူဆစရာဖြစ်နေပါသည်။

၇။ တည်ဆဲဥပဒေများနှင့်အညီ နိုင်ငံသားနှင့် နိုင်ငံသားမဟုတ်သူများကို အမြန်ဆုံးခွဲခြားကြရပါမည်။ နိုင်ငံသားများကို နိုင်ငံသားအခွင့်အရေး အပြည့်အဝပေးပြီး နိုင်ငံသားမဟုတ်သူများ၏ လုပ်ပိုင်ခွင့်၊ ပိုင်ဆိုင်မှုများကို စစ်ဆေးအရေးယူ ထိန်းချုပ်ရပါမည်။

၈။ နိုင်ငံတွင်း၌ရှိနေသည့် ဘင်္ဂလီမွတ်ဆလင်များ၏ ၄၊ ၅ ယောက်ယူခြင်း၊ သားသမီး မရေမတွက်နိုင်အောင် မွေးထုတ်နေခြင်းများကို ဥပဒေဖြင့် ပြဋ္ဌာန်း၍ ထိန်းချုပ်သင့်ပါသည်။

၉။ အာရဗီကျောင်းများကို ချက်ချင်း ပိတ်ပင်ရပါမည်။

၁၀။ ပြည်နယ်အစိုးရအဖွဲ့၏ တာဝန်နှင့် လုပ်ပိုင်ခွင့်များကို တိကျစွာ ပြဋ္ဌာန်းပြီး ပြည်နယ်အရေးများကို အချိန်နှင့်တစ်ပြေးညီ ထိရောက်မြန်ဆန်စွာ ဆုံးဖြတ်လုပ်ကိုင်ဆောင်ရွက်နိုင်ရေးအတွက် ပြည်ထောင်စုအစိုးရ၊ ပြည်ထောင်စု လွှတ်တော်တို့က အမြန်ဆုံးအကောင်အထည်ဖော် ခွဲဝေပေးသင့်ပါသည်။



(စ) စီးပွားရေး၊ လူမှုရေး၊ ဖွံ့ဖြိုးရေးတိုးတက်ရေးဆိုင်ရာ အကြံပြုချက်များ

ရခိုင်တိုင်းရင်းသားများသည် တစ်လင်တစ်မယားစနစ်ကိုသာ တန်ဖိုးထား လက်ခံကျင့်သုံးလာသည့် ဗုဒ္ဓဘာသာဝင်များ ဖြစ်ကြသဖြင့် ဇနီးမယား ၄၊ ၅ ယောက်စီယူပြီး အထိန်းအချုပ်မဲ့ စက်ရုံကဲ့သို့ ကလေးမွေးထုတ်နေကြသော အစ္စလာမ်ဘာသာဝင် ဘင်္ဂလီမွတ်ဆလင်များကို လူဦးရေချင်း မယှဉ်ပြိုင်နိုင်ဖြစ်လာပါသည်။ တစ်ဖက်နိုင်ငံမှ ဥပဒေမဲ့တရားမဝင် ခိုးဝင်လာကြသူများမှာလည်း တဖြည်းဖြည်း အဆမတန် များပြားလာခဲ့ရာ မွတ်ဆလင်ဦးရေလွှမ်းမိုးမှုမှာ စိုးရိမ်စရာဖြစ် လာနေပြီဖြစ်ပါသည်။

ရခိုင်လူဦးရေမှာကား နိုင်ငံတကာမွေးဖွားနှုန်းအတိုင်း ပျမ်းမျှ (၂%)သာ တိုးပွားမည်ဖြစ်သော်လည်း မွတ်ဆလင်ဦးရေမှာ အတိုင်းအဆမဲ့ တိုးပွားနေပါသည်။ စာရင်းဇယားမဲ့ တိုးပွားနေခြင်းဖြစ်သည်။ UNHCR က ကျွေးသည့် ထမင်းစားပြီး ကလေးမွေးချင်တိုင်း မွေးနေကြသည်။ မတတ်သာအဆုံး တစ်ဖက်နိုင်ငံသွားပြီး ကိုယ်ဝန်ယူသားစပ်ကြသည်အထိပင် ဖြစ်သည်။ ယခင်ခေတ်အဆက်ဆက်ကပင် ရခိုင်ဒေသမှ ရခိုင်တိုင်းရင်းသား တချို့ တချို့မှာ စီးပွားရေး၊ ပညာရေး၊ အလုပ်တာဝန်များကို အကြောင်းပြုပြီး ရန်ကုန်ကဲ့သို့ နေရာသစ်များတွင် ပြောင်းရွှေ့နေထိုင်ခဲ့ကြပါသည်။ ထိုသူများမှာ စီးပွားကြွယ်ဝချမ်းသာသူများ၊ ပညာတတ်အရာရှိကြီးများက များပြားပါသည်။ မောင်တော၊ ဘူးသီးတောင်၊ ရသေ့တောင်မြို့နယ်များမှ ဒေသခံတိုင်းရင်းသားအများစုမှာ မွတ်ဆလင်များ၏ အန္တရာယ်ကို စိုးရိမ်သဖြင့်

ရခိုင်ပြည်နယ်အတွင်း တခြားမြို့များသို့ ပြောင်းရွှေ့နေထိုင်ကြသူများ ရှိသကဲ့သို့ ပြည်မဘက်သို့ ပြောင်းရွှေ့သွားကြသူများလည်း များပြား သည်။

ယခုအခါ ရခိုင်ပြည်နယ်ရှိ ရခိုင်များမှာ ယခင်ကကဲ့သို့ မသိ မသာဖြည်းဖြည်းချင်း တရွေ့ရွေ့ ပြောင်းရွှေ့သွားကြခြင်းမျိုးမဟုတ်ဘဲ အုံနှင့်ကျင်းနှင့် ရာထောင်ချီ၍ သွာချီ၍ မြို့နယ်တိုင်းလိုလိုမှ ပြောင်းရွှေ့ နေကြသည်မှာ စိုးရိမ်စရာ ဖြစ်နေပါသည်။ ပြောင်းရွှေ့နေကြသည်မှာ လည်း ယခင်ကကဲ့သို့ စီးပွားချမ်းသာသူများ၊ ပညာတတ်များ၊ အရာရှိ ဝန်ထမ်းကြီးများသာ မဟုတ်တော့ဘဲ အလုပ်လက်မဲ့များ အလုပ်ရှာဖွေ ရန် သွားနေကြခြင်းသာ ဖြစ်သည်။

ရခိုင်ပြည်နယ်၌ အလုပ်အကိုင်ရှားပါးမှု ပြဿနာကြောင့် အလုပ်ရလွယ်မည့် ဗမာပြည်မ၊ တရုတ်၊ ထိုင်း၊ မလေးရှား စသည် များကို သွားကြခြင်းဖြစ်သည်။ ယခင် ဆယ်စုကာလများက ကချင် ဒေသသို့ ကျောက်တူးရန်၊ အပိုးထမ်းရန် သန်မာသည့်လူငယ်များသာ သွားခဲ့ကြသည်။ ယခုနှစ်များအတွင်းတွင် မိသားစုလိုက်၊ အဘိုးအဘွား၊ နို့စို့ကလေးများပါမကျန် အိမ်ထောင်ပြောင်းပြီး သွားနေကြခြင်း ဖြစ် သည်။ တချို့က တရုတ်၊ ထိုင်း၊ မလေးရှားစသည်တို့သို့သွားကြပြီး တချို့မှာ မြန်မာ့ကုမ္ပဏီလုပ်ငန်းပိုင်ရှင်ကြီးများ၏ ပိုင်ဆိုင်ထားသော ခြံမြေများ၌ အလုပ်ကြမ်းလုပ်ရန် ခေါ်၍ မျှော်လင့်ချက်ဖြင့် သွားကြ ခြင်းဖြစ်သည်။ မည်ရွေ့မည်မျှ ထွက်ခွာသွားကြပြီးဖြစ်သည်ကို စာရင်း ဇယားမှတ်တမ်းမရှိ ပြည်နယ်တစ်ခုလုံး ငှက်အုပ်ပျံသလို ပျံနေကြ သည်။



ရခိုင်ပြည်နယ်၌ စက်ရုံ၊ အလုပ်ရုံ မရှိ။ လယ်ယာ၊ သားငါး လုပ်ငန်းသာ အဓိကဖြစ်သည်။ လယ်ယာမြေများမှာလည်း တိုးပွား နေသည့် လူဦးရေနှင့် မျှတလုံလောက်စွာ လုပ်ကိုင်စားသောက်နိုင် ခြင်း မရှိတော့ပေ။ မောင်တော၊ ဘူးသီးတောင်၊ ရသေ့တောင်နယ်မှ လယ်မြေများမှာလည်း အားလုံးနီးပါး ကုလားလက်ထဲရောက်သွားခဲ့ပြီ။

လယ်ယာမြေပိုင်ဆိုင်သူများမှာ လူနည်းစုဖြစ်ပြီး လယ်မဲ့၊ ယာမဲ့ လက်လုပ်လက်စား(ကျွဘန်း)တွေများလာသည်။ လယ်ပိုင်ရှင် များထဲ၌ လယ်ကူလီ(စာရင်းငှား)ဘဝဖြင့် လယ်ပိုင်ရှင်ခေါင်းပုံဖြတ် ခြယ်လှယ်သမျှ ခံနေကြရသည်။ မိမိလုပ်အားခကို ထိုက်တန်စွာ မခံစားကြရချေ။ တခြားလုပ်ငန်းများ၌လည်း ထိုအတိုင်းပင်ဖြစ်ပါ သည်။ ဘင်္ဂလီကုလားများက ရသမျှအလုပ်ကို ပေးသလောက်ဈေးဖြင့် တိုးဝင်ပြီးလုပ်ကြသည်။ ထိုက်သင့်သည့်ဈေးကို ရသည်ဖြစ်စေ၊ မရ သည်ဖြစ်စေ အလုပ်လုပ်ရဖို့အရေးကိုသာ ရှေးရှုပြီး ဈေးနှိမ်ပေးလျှင် လည်း လုပ်ကြသည်။ ထိုအခါ ရခိုင်ကျွဘန်းအလုပ်သမားများ နေရာ မရဖြစ်လာကြတော့သည်။ ဤသို့ဖြင့် ရခိုင်တို့မှာ ငွေပိုရမည့်၊ အလုပ် အကိုင်ရမည့် အသံကြားသည့်နေရာများသို့ နေရပ်စွန့်ခွာပြီး သွားကြ တော့သည်။

၁။ ရခိုင်ပြည်နယ်၌ ရခိုင်တိုင်းရင်းသားများ ဆက်လက်နေထိုင် နိုင်ရေးသည် အလွန်အရေးကြီးလာပါပြီ။ ရခိုင်ပြည်နယ်၌ ရခိုင် လူဦးရေ တိုးပွားရေးသည်လည်း အဓိကစဉ်းစားရမည့် အချက်ဖြစ်လာ ပါပြီ။ လူဦးရေတိုးပွားရေးကိစ္စသည် စားဝတ်နေရေးနှင့် တိုက်ရိုက် စပ်ဆိုင်နေပါသည်။ မိမိဒေသ၌ အိုးမကွာ၊ အိမ်မကွာနေထိုင်ပြီး အလုပ်

လုပ်ကိုင်နှင့် စားသောက်နိုင်ရေးသည်လည်း အရေးအကြီးဆုံး ဖြစ်ပါသည်။ စားဝတ်နေရေး ဖူလုံအောင်၊ ဖွံ့ဖြိုးအောင် ဖန်တီးပေးနိုင်ရပါမည်။ ရခိုင်တိုင်းရင်းသားများ သုံးရာသီပတ်လုံး အလုပ်မြဲနိုင်ရန် အလုပ်အကိုင် ဖန်တီးပေးနိုင်ရပါမည်။ တချို့ရပ်ရွာများ၌ တစ်ရွာလုံးရှိ လယ်မြေများကို လူ ၄၊ ၅ ဦးကသာ ပိုင်ဆိုင်ထားကြပြီး ကျန်တစ်ရွာသားလုံးမှာ လယ်စာရင်းငှားများဖြစ်နေကြပါသည်။ လယ်ပိုင်ရှင်ကြီး၊ မြေပိုင်ရှင်ကြီးများက ချယ်လှည်ခေါင်းပုံဖြတ်သမျှကို ခံကာ အကြွေးသံသရာလည်နေကြရပါသည်။ ၎င်းလယ်မဲ့ယာမဲ့များအား လယ်ယာမြေပိုင်ခွင့် ရရှိရေး စီမံဆောင်ရွက်ပေးသင့်ပါသည်။ လယ်ယာမြေလုံလောက်စွာ ဖော်ထုတ်မပေးနိုင်ပါက ဥယျာဉ်ခြံမြေ စိုက်ပျိုးရေး၊ သစ်မာပင်စိုက်ပျိုးရေးကို နှစ်တို၊ နှစ်ရှည်ပင်များတွဲပြီး စနစ်တကျ အကောင်အထည်ဖော် ဆောင်ရွက်ပေးသင့်ပါသည်။ ဝိသမလောဘသားတချို့က တောတောင်များ ခုတ်ထွင်ရှင်းလင်း ဖြုန်းတီးနေကြသည်။ မည်သည့်စိုက်ပျိုးပင်မျှ မရှိဘဲ တောတောင်များ ပြုန်းတီးသွားရသည်။ ထိုမြေလွတ်၊ တောရိုင်း၊ တောင်ရိုင်းများကို ဆင်းရဲနွမ်းပါးသည့် ကျေးလက်နေ ရခိုင်တိုင်းရင်းသားများအား စနစ်တကျ ဖော်ထုတ်တိုင်းတာခွဲဝေ သတ်မှတ်ပေးပြီး ပျိုးပင်မျိုးပင်များ၊ ကြိုတင်ချေးငွေများ၊ နှစ်ရှည်ချေးငွေများ၊ နည်းပညာများ အပြည့်အဝ ပံ့ပိုးပေးခြင်းဖြင့် ကျေးလက်နေ ပြည်သူများ အလုပ်အကိုင်ရရှိရေး၊ အသက်မွေးဝမ်းကျောင်းပြုနိုင်ရေး ဆောင်ရွက်ပေးသင့်ပါသည်။

၂။ ရခိုင်ပြည်နယ်ရှိ သဘာဝ မြစ်ချောင်း၊ အင်းအိုင်များကို လုပ်ငန်းရှင်ကြီးများက ပိုင်ဆိုင်ချုပ်ကိုင်ထားကြခြင်း၊ လေလံယူထားကြခြင်းများကြောင့် ကျေးလက်နေဆင်းရဲသား ရခိုင်လူထုမှာ ငါးရှာ၊



ဟင်းရူး၊ ရောင်းချစားသောက်မည့်နေရာ မရှိဖြစ်သွားခဲ့ရပါသည်။ အများပြည်သူပိုင် ချောင်းများ၊ မြစ်များကို လေလံတင်ရောင်းချပြီး အခွန်ရှာသည့်စနစ်ကို ပြန်လည်စဉ်းစားသင့်ပါသည်။ ပယ်ဖျက်သင့်ပါသည်။ ရေချိုငါးမွေးမြူရေးလုပ်ငန်းများ၊ နွား၊ ဆိတ်၊ ကြက်၊ ဘဲ၊ ဝက် စသည့်မွေးမြူရေးလုပ်ငန်းများကို တစ်ပိုင်တစ်နိုင် လုပ်ကိုင်နိုင်ရေးအတွက် သက်ဆိုင်ရာဝန်ကြီးဌာနများက ပံ့ပိုးမှုဖြင့် ဆောင်ရွက်သင့်ပါသည်။ သမဝါယမစနစ်အသွင်ဖြင့် စုပေါင်းစိုက်ပျိုးရေး၊ မွေးမြူရေးလုပ်ငန်းများ ဖော်ထုတ်ပေးသင့်ပါသည်။

၃။ အထူးသဖြင့် မောင်တော၊ ဘူးသီးတောင်၊ ရသေ့တောင်မြို့နယ်များ၌ ရခိုင်လူဦးရေမှာ ယခုနှစ်ပိုင်းများ၌ ပို၍ ပို၍ နည်းပါးလာနေသည်မှာ စိုးရိမ်စရာ အကောင်းဆုံးဖြစ်ပါသည်။ ယခုအရေးအခင်းဖြစ်ပြီးနောက် ပို၍ဆိုးရွားလာပါသည်။ ၁၉၄၂ ခုနှစ် ကုလား-ရခိုင်အဓိကရုဏ်းမဖြစ်မီက မောင်တော၊ ဘူးသီးတောင် ၂မြို့နယ်၌ ရခိုင်ရွာပေါင်း ၅၀၀ ကျော် ရှိခဲ့ပါသည်။ ၎င်းအဓိကရုဏ်းနှင့် မူဂျာဟစ်သူပုန်ထမှုကြောင့် အားလုံး ပြာပုံဖြစ်သွားခဲ့ရပါသည်။ ရခိုင်လယ်မြေများမှာ ကုလားလက်ထဲရောက်သွားခဲ့ရသည်။ အမှန်က ထိုလယ်မြေများ၏ မူလဓားမဦးချပိုင်ရှင်များမှာ ရခိုင်တိုင်းရင်းသားများသာ ဖြစ်ကြပါသည်။ ထိုရခိုင်များမှာ စစ်တွေ၊ ပေါက်တော၊ မြောက်ဦး၊ ပုဏ္ဏားကျွန်း၊ မင်းပြား၊ မြေပုံ စသည့်မြို့နယ်များသို့ ထွက်ပြေးရင်း ပျံ့နှံ့ရောက်ရှိနေထိုင်သွားခဲ့ကြသည်။ ယခုအခါ မောင်တော၊ ဘူးသီးတောင်မြို့နယ်များ၌ ရခိုင်လူဦးရေတိုးပွားလာရေးကို အဓိကထား ဆောင်ရွက်ရမည်ဖြစ်ပါသည်။ ထိုဒေသသို့ ရခိုင်များ

ပြောင်းရွှေ့နေထိုင်ရန်အတွက် လုံလောက်သော လယ်ယာ၊ ဥယျာဉ်ခြံမြေများ ပေးရပါမည်။ အရင်းအနှီးအလုံအလောက် ပေးရပါမည်။ အစိုးရဘဏ်၊ ပုဂ္ဂလိကဘဏ်များက ကူညီပေးရပါမည်။ မျိုးစပါး၊ ထွန်တုံး၊ ထွန်တံ၊ ထွန်စက်၊ ကျွဲနွား အလုံအလောက်ပေးရပါမည်။ မွေးမြူရေးလုပ်ငန်းကို တစ်ပိုင်တစ်နိုင်လုပ်ကိုင်ရန် ထူထောင်ပေးရပါမည်။ အနည်းဆုံး အိမ်ခြေ (၂၀၀/၃၀၀) ရှိ ရွာကြီးများ တည်ထောင်ပေးနိုင်ရပါမည်။ လက်နက်ကိုင်ပြည်သူ့စစ်တပ်ဖွဲ့များနှင့် ရဲစခန်းများ လုံလောက်စွာ ထားရှိသင့်ပါသည်။ လမ်းပန်းဆက်သွယ်ရေး ချောမွေ့လျင်မြန်နိုင်စေရန် လုပ်ဆောင်ရပါမည်။ ကျန်းမာရေး၊ ပညာရေး အထူးမြှင့်တင်ဆောင်ရွက်ပေးရပါမည်။ ရခိုင်လူဦးရေ တိုးတက်ဖွံ့ဖြိုးရေးအတွက် အဓိကမှာ စားဝတ်နေရေးဖွံ့ဖြိုးရန် လိုအပ်ပြီး ကျန်းမာရေး၊ ပညာရေးလည်း တိုးတက်ရန် လိုအပ်ပါသည်။ ထိုဒေသကို အထူးစီမံချက်များ ချမှတ်ဆောင်ရွက်သင့်ပါသည်။

၄။ ဥပဒေနှင့်အညီ အမှန်တကယ်နိုင်ငံသားဖြစ်ခွင့်ရှိသူ ဘင်္ဂါလီမွတ်ဆလင်များနှင့် နိုင်ငံခြားသား ရိုဟင်ဂျာများကို ဥပဒေအရ အခွင့်အရေးခွဲခြားရပါမည်။ အဓိက လူဝင်မှုဌာနက မှန်ကန်တိကျစွာ လုပ်ဆောင်ရန် လိုအပ်ပါမည်။ ရိုဟင်ဂျာအမည်ခံများမှာ တရားမဝင်ခိုးဝင်လာသည့် နိုင်ငံခြားသားများသာဖြစ်၍ ဥပဒေနှင့် မကိုက်ညီသည့် ၄င်းတို့၏လုပ်ငန်းပိုင်ဆိုင်မှု၊ လယ်ယာပိုင်ဆိုင်မှုများအားလုံးကို ရပ်စဲခြင်း၊ သိမ်းဆည်းခြင်းများ ပြုလုပ်ပြီး လယ်ယာမြေများကို မူလပိုင်ရှင်ဖြစ်သည့် ရခိုင်တိုင်းရင်းသားများလက်ဝယ်သို့ လွှဲပြောင်းပေးနိုင်ရန် ဆောင်ရွက်သင့်ပါသည်။



၅။ တောင်ပေါ်နေ ခမီး၊ မြို၊ သက်၊ ဒိုင်းနက် စသည့်တိုင်းရင်းသားမျိုးနွယ်စုများ၏ စီးပွားရေး၊ ပညာရေး၊ ကျန်းမာရေး ဖွံ့ဖြိုးတိုးတက်မှု ပိုမိုရရှိစေရန် အထူးစီမံကိန်းများ ချမှတ်၍ ဦးစားပေးဆောင်ရွက်သင့်ပါသည်။ UN, INGOs အဖွဲ့များသည် ရခိုင်အမျိုးသားအရေးကို ထားဦး နယ်စပ်ဒေသရှိ ဖွံ့ဖြိုးမှုအနိမ့်ကျဆုံးဖြစ်သည့် ထိုချွတ်ခြုံကျလူမျိုးစုတိုင်းရင်းသားများအရေးကိုတောင်မှ ယနေ့ထိ စိုးစဉ်းမျှ ပံ့ပိုးဆောင်ရွက်ပေးသည်ကို မတွေ့ရသေးပါ။

၆။ တစ်ဖက် ဘင်္ဂလားဒေ့ရှ်နိုင်ငံရှိ ရခိုင်တိုင်းရင်းသားမျိုးနွယ်များသည် ဌာနေအမိမြေသို့ အပြီးအပိုင် ပြန်လာလိုကြသည်ဆိုလျှင် နိုင်ငံတော် အနာဂတ်အရေး၊ ရခိုင်ဒေသအရေးကို ရှေးရှု၍ အထူးစီမံချက်တစ်ရပ်ရပ်ဖြင့် လက်ခံနေရာချထားနိုင်ရေးကို ကြိုတင်စဉ်းစားထားရှိသင့်ပါသည်။

၇။ ရခိုင်ပြည်နယ်မှ ထွက်သည့် ကုန်ပစ္စည်းများကို နိုင်ငံခြားတိုင်းပြည်များသို့ စစ်တွေ၊ ကျောက်ဖြူဆိပ်ကမ်းများမှတစ်ဆင့် တိုက်ရိုက်တင်ပို့ ရောင်းချနိုင်ရေး ဆောင်ရွက်သင့်ပါသည်။ ရခိုင်ပြည်နယ်မှ ထွက်ရှိသည့် ကုန်ကြမ်းပစ္စည်းများကို ကုန်ချောဖြစ်ရေးအတွက် ပြည်မဘက်သို့ တင်ပို့နေရမှုမှာ ကုန်ကျစရိတ်ကြီးလေးခြင်း၊ ပစ္စည်းများ အချိန်မီမရောက်၍ ပျက်စီးနိုင်ခြင်းတို့ကြောင့် ကုန်ကြမ်းထွက်ရှိရာ ရခိုင်ပြည်နယ်၌ပင် ကုန်ချောထုတ်လုပ်နိုင်ရေးအတွက် စက်ရုံ၊ အလုပ်ရုံများ ထူထောင်ပေးသင့်ပါသည်။ ဥပမာ - ရခိုင်ပြည်နယ်၌ ပေါများစွာ ပေါက်ရောက်သည့် သစ်၊ ဝါးအမျိုးမျိုးမှ ကုန်ချောပစ္စည်းများ ထုတ်လုပ်နိုင်မည့် စက်ရုံ၊ အလုပ်ရုံများ၊ ပုစွန်၊ သားငါး၊ ဆား

နှင့် အခြားရေထွက်ပစ္စည်းများကိုလည်း ကုန်ချောထုတ်လုပ်နိုင်မည့် နည်းလမ်းများ ရှာဖွေအကောင်အထည် ဖော်သင့်ပါသည်။ (ယခုအခါ ငါးမျိုးများ တစ်နေ့ထက်တစ်နေ့ မျိုးသုဉ်းရှားပါးနေပါပြီ။ ငါးမျိုးများ စိုက်ထည့်ခြင်းကို သက်ဆိုင်ရာဝန်ကြီးဌာနက မြို့နယ်တိုင်း၌ တက်ကြွစွာ ဆောင်ရွက်သင့်ပါသည်။)

၈။ ရခိုင်ဒေသ၌ လျှပ်စစ်မီးအပြည့်အဝ အသုံးချနိုင်မှု မရှိသေးသဖြင့် ထင်း၊ မီးသွေးများကို အဓိကအသုံးပြုနေကြရဆဲဖြစ်သည်။ ပြုန်းတီးပျက်ယွင်းနေသည့် တော၊ တောင်သဘာဝပတ်ဝန်းကျင်များကို နှစ်ရှည်၊ နှစ်တိုပင်များ၊ ဥယျာဉ်ခြံမြေစိုက်ပျိုးရေးများ၊ ထင်းစိုက်ခင်းများ၊ သစ်မာစိုက်ခင်းများ စိုက်ပျိုးပြီး မွေးမြူရေးလုပ်ငန်းများနှင့် တွဲဖက်ကာ တိုးတက်ဖွံ့ဖြိုးအောင် ဖန်တီးသင့်ပါသည်။ ရခိုင်တစ်ပြည်နယ်လုံး လျှပ်စစ်မီးများ လုံလောက်စွာရရှိရေးကိုလည်း အမြန်ဆုံး ဆောင်ရွက်သင့်ပါသည်။

## နိဂုံး

ဒီမိုကရေစီနှင့် လူ့အခွင့်အရေးသည် ကမ္ဘာ့ရွာကြီး၏ အမှောင်ကျ မှေးမှိန်နေသော မြေတစ်ကွက်ပေါ်၌ ခြံနှင့်ဝင်းနှင့်နေထိုင်သည့် ရခိုင်မိသားစု၏ အိမ်ကြီးရခိုင်ပေါ်သို့ ကြဲကျလာသော မွှေးမြသန့်စင်သည့် ပန်းဖြူပွင့်များသာ ဖြစ်သင့်ပြီး နီရဲသော သေမင်းတမန် ငရဲဗုံးကျည်ပန်းများ မဖြစ်သင့်ပါ။ လက်ဝါးနှစ်ဖက်ရိုက်ခတ်သံသည် ငြိမ်းချမ်းရေးလက်ခုပ်သံသာ ဖြစ်သင့်ပါသည်။ သွေးထိုးလှုံ့ဆော်မြှောက်ပင့်သည့် လက်ခုပ်သံများ မဖြစ်သင့်ပါ။ ကမ္ဘာပေါ်မှာ လူမျိုးများစွာ ပျောက်သွားကြသည်။ ဘာသာစကားများ ပျောက်သွားကြသည်။ နယ်မြေများ၊ နိုင်ငံများ ဆုံးရှုံးသွားကြသည်။ စစ်ကြောင့်ပင် ဖြစ်ပါသည်။ စစ်၏အသွင်သဏ္ဌာန် အမျိုးမျိုး ရှိနိုင်ကာ မည်သည့်စစ်မှ ကောင်းသည် မရှိ။ မည်သည့်စစ်မျိုးပင် ကြုံကြုံ ရခိုင်လူမျိုးများသည် ကမ္ဘာ့ရွာက ပျောက်ဆုံးမသွားရန်အတွက် အရေးကြီးဆုံးမှာ ညီညွတ်သော ရက္ခိတစိတ်ခာတ် ထာဝရ ရှင်သန်နေရေးပင် ဖြစ်ပေသည်။

ခိုင်ကျော်(ဥပဒေ)

